(17) From time to time, to make, vary and repeal bye- laws for the regulation of the business of the Company, the officers and servants or the members of the Company or any section thereof.

(18) To enter into all such negotiations and contracts and rescind and vary all such contracts and execute and do all such acts , deeds and things in the name and on behalf of the Company as they may consider expedient for or in relation to any of the matter aforesaid or otherwise for the purposes of the Company.

(19) To borrow money for the benefit of the Company's business from any person, firm or company or bank or financial organization of local and abroad in the manner that the Directors shall think fit .

## GENERAL MEETING

15. A general meeting shall be held within eighteen months from the date of its incorporation and thereafter at least once in every calendar year at such time (not being more than fifteen months after the holding of the last preceding general meeting ) and places as may be fixed by the Board of Directors. No business shall be transacted at any general meeting unless a quorum of members is presented at the time when the meeting proceeds to business, save as herein otherwise provided Member holding not less than 50 percent of the issued shares capital (not less than two members ) personally present, shall form a quorum for all purposes. And if and when in the case of there are only two number of members in the Company, those two members shall form a quorum.

## DIVIDENDS

16. The Company in general meeting may declare a dividend to be paid to the members, but no dividend shall exceed the amount recommended by the Directors .No dividends shall be paid otherwise than out of the profits of the year or any other undistributed profits.

## OFFICE STAFF

17. The Company shall maintain an office establishment and appoint a qualified person as General Manager and other qualified persons as office staffs . The remunerations and allowances such as salaries , travelling allowances and other expenditures incidental to the business shall be determined by the Board of Directors, and approved by the general meeting .The General Manager shall be responsible for the efficient operation of the office in every respect and shall be held accountable at all times to the Managing Director.

## ACCOUNTS

18. The Directors shall cause to be kept proper books of account with respect to:-

*(1) all sums of money received and expended by the Company and the matters in respect of which the receipts and expenditures take place:*

*(2) all sales and purchases of goods by the Company ;*

*(3) all assets and liabilities of the Company.*

19. The books of account shall be kept at the registered office of the Company or at such other place as the Directors shall think fit and shall be opened to inspection by the Directors during office hours.

## AUDIT

20. Auditors shall be appointed and their duties regulated in accordance with the provisions of the Myanmar Companies Act or any statutory modifications thereof for the time being in force.

## NOTICE

21. A notice may be given by the Company to any member either personally or sending it by post in a prepaid letter addressed to his registered address.

## THE SEAL

22. The Directors shall provide for the safe custody of the Seal, and the Seal shall never be used except by the authority of the Directors previously given, and in the presence of one Director at least, who shall sign every instrument to which the Seal is affixed.

## INDEMNITY

23. Subject to the provisions of Section 86 (C) of the Myanmar Companies Act and the existing laws, every Director, Auditor, Secretary or other officers of the Company shall be entitled to be indemnified by the Company against all costs, charges. losses, expenses and liabilities incurred by him in the execution and discharge of the duties or in relation thereto.

## WINDING - UP

24. Subject to the provisions contained in the Myanmar Companies Act and the statutory modification thereupon, the Company may be wound up voluntarily by the resolution of General Meeting.

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Articles of Association, and we respectively agree to take the number of shares in the Capital of the Company set opposite our respective names.

| Sr. No. | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of Shares taken | Signatures |
|---|---|---|---|---|
| 1 | **Daw Yu Yu Win**<br>Mercahnt<br>No.(115), Dhamazedi Road, Ward No.(10), Kamayut Township, YANGON. | 12/LATHANA(NAING)015276 | 2000 | |
| 2 | **Daw Shout Si**<br>Merchant<br>No.(114/116), (46)Street, (10)Ward, Botataung Township, YANGON. | 9/MAYATA(NAING)107215 | 3000 | |

NayPyiTaw Dated 11 the 10 day of 2013

It is hereby certified that the persons mentioned above put their signatures in my presence.

**U YE NOOS ( LL.B )**
**Supreme Court Advocate**
176(First Floor), Botataung Pagoda Road, Meba Yeik Mon Condo.
Yangon. Ph: (01) 296132, 397234, 397235

LIST OF MEMBERS OF "**MYANMAR AQUARIUMS COMPANY LIMITED**" AND THEIR SHARES ACQUIRED BY ALLOTMENT AS ON THE DATE OF (24-3-2014)

| Sr. No: | Name, Address and Occupation of Subscribers | Nationality & N. R. C No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1. | **Daw Yu Yu Win**<br>No.115, Dhamazedi Road, Ward No.(10), Kamayut Township, Yangon Region.<br>**( Merchant )** | **Myanmar**<br>12/La Tha Na (Naing) 015276 | 2,000 | |
| 2. | **Daw Shout Si**<br>No.114/116, 46th Street, Ward No.(10), Botataung Township, Yangon Region.<br>**( Merchant )** | **Myanmar**<br>9/Ma Ya Ta (Naing) 107215 | 3,000 | |
| 3. | **U Tin Maung Htun**<br>Building No.(B-15), Room No.(302), Shwegabar Housing, Mindhama Road, Ward No.(3), Mayangone Township, Yangon Region.<br>**( Merchant )** | **Myanmar**<br>12/Ah Sa Na (Naing) 000919 | - | |

**This list is not part of the Memorandum and Articles of Association.**
**It is furnished for an up-to-date information only.**

U YE NOOS (LL.B)
Supreme Court Advocate
170 First Floor, Botataung Pagoda Road, ...
Yangon-Ph: (01) 296..., 397234, 397235

## MYANMAR AQUARIUMS COMPANY LIMITED

ရေအောက်ငါးတမ္ဘာတွင်ပြသမည့်ငါးမျိုးစိတ်များ



**Badis corycaeus**
**(Asian Leafish)**



**Balitora brucei**
**(Grays Stone Loach)**



**Balitora burmanica**
**(Burmese Stone Loach)**



**Botia udomritthiruji**
**(Emperor Botia)**

**MYANMAR AQUARIUMS COMPANY LIMITED**

ရေအောက်ငါးတမ္ဘာတွင်ပြသမည့်ငါးမျိုးစိတ်များ



**Rasbora (Danio) daniconius**
**(Slender Barb-Rasbora)**



**Crossocheilus(Epalzeorhynchus)siamensis**
**(Siamese Algae Eater)**



**Erethistes asperus(Hara hara)**
**(Moth Catfish)**



**Puntius conchonius**
**(rosy Barb)**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

၄၅၂၇
၁၊၁၁

စာအမှတ်၊ ၂ / ၃ - ၆ ( ၁ ) / စီးပွား
ရက် စွဲ၊ ၂၀၁၃ ခုနှစ်၊ စက်တင်ဘာ လ ရက်

သို့
တိုင်းဒေသကြီးဝန်ကြီးချုပ်
တိုင်းဒေသကြီးငါးလုပ်ငန်းဦးစီးဌာန

အကြောင်းအရာ။ ကန်တော်ကြီးရေချိုငါးဥယျာဉ်လုပ်ကိုင်ခွင့် စာချုပ်ချုပ်ဆိုရန်ကိစ္စ

ရည် ညွှန်း ချက်။ ယင်း၏ (၂၀. ၉. ၂၀၁၃)ရက်စွဲပါစာအမှတ်၊ ငလ / ရကတ - ၅က / ၂၀၁၃ (၃၂၂၆/၃၂၂၇)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ ကန်တော်ကြီးရေချိုငါးဥယျာဉ် ငှားရမ်းလုပ်ကိုင်ခွင့် အိတ်ဖွင့်တင်ဒါကို (၁၆. ၉. ၂၀၁၃)ရက်နေ့တွင် အိတ်ဖွင့်တင်ဒါရောင်းချခဲ့ရာ တင်ဒါဆွဲဝယ်သူ (၅)ဦးတွင် ကြမ်းခင်းဈေး (၄၀၈. ၈၅)သိန်းကို ကျော်လွန်၍ တင်ဒါကြေးသိန်း (၁၂၀၀)ဖြင့် ဈေးအများဆုံးပေး၍ တင်ဒါလေလံဆွဲဝယ်သူ ဒေါ်ယုယုဝင်းအား တင်ဒါစည်းကမ်းချက်အပိုဒ် (၂၃)အရ တစ်ပတ်အတွင်း စာချုပ်ချုပ်ဆို လက်မှတ်ရေးထိုးရန်အတွက် (၂၃. ၉. ၂၀၁၃)ရက်နေ့တွင် နောက်ဆုံးထား၍ ပြုလုပ်ဆောင်ရွက်သွားရန် လိုအပ်ပါသဖြင့် တင်ဒါရရှိသူ ဒေါ်ယုယုဝင်းနှင့်စာချုပ်ချုပ်ဆိုလုပ်ကိုင်ရန်အတွက် စာချုပ်စည်းကမ်းများနှင့်အညီ စာချုပ်ချုပ်ဆိုလုပ်ကိုင်ခွင့်ပြုပါရန်အတွက် တိုင်းဒေသကြီးငါးလုပ်ငန်းဦးစီးဌာနမှ ရည်ညွှန်းပါစာဖြင့် တင်ပြလာပါသည်။

၂။ အဆိုပါတင်ပြလာခြင်းနှင့်ပတ်သက်၍ (၂၆. ၉. ၂၀၁၃)ရက်နေ့တွင်ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၉/ ၂၀၁၃)၊ ဆုံးဖြတ်ချက်အပိုဒ် (၃၃)အရ တင်ဒါကြေးသိန်း (၁၂၀၀)ဖြင့် ဈေးအများဆုံးပေး၍ တင်ဒါလေလံဆွဲဝယ်သူ ဒေါ်ယုယုဝင်းအား တင်ဒါစည်းကမ်းချက်နှင့်အညီ စာချုပ်ချုပ်ဆို ခွင့်ပြုကြောင်း အကြောင်းကြားပါသည်။

၃၄၃၃
၂. ၁၀. ၁၃
၁၂ : ၄၅

ဝန်ကြီးချုပ်(ကိုယ်စား)
(အောင်ကျော်စိုး၊ ဒုတိယညွှန်ကြားရေးမှူး)

မိတ္တူ။
တိုင်းဒေသကြီးစိုက်ပျိုးရေးနှင့်မွေးမြူရေးဝန်ကြီး
လက်ခံစာတွဲ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

၆၀၂၃
၇/၁၀

စာအမှတ်၊ ၂ / ၄ ၆ ( ၁ ) / စီးပွား
ရက် စွဲ၊ ၂၀၁၃ ခုနှစ်၊ စက်တင်ဘာ လ ၃၀ ရက်

သို့
တိုင်းဒေသကြီးဦးစီးမှူး
တိုင်းဒေသကြီးငါးလုပ်ငန်းဦးစီးဌာန

အကြောင်းအရာ။ ကန်တော်ကြီးရေချိုငါးဥယျာဉ်ဌားရမ်းလုပ်ကိုင်ခွင့် အိတ်ဖွင့်တင်ဒါအတည်ပြုပေးရန်ကိစ္စ

ရည် ညွှန်း ချက်။ ယင်း၏ (၂၀. ၉. ၂၀၁၃)ရက်စွဲပါစာအမှတ်၊ ငလ/ရကတ- ၅က/၂၀၁၃ (၃၂၂၄/၃၂၂၅)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ ပဟန်းမြို့နယ်၊ ကန်တော်ကြီးရေချိုငါးဥယျာဉ်ဌားရမ်းလုပ်ကိုင်ခွင့်အိတ်ဖွင့်တင်ဒါကို (၁၆. ၉. ၂၀၁၃)ရက်နေ့တွင် အိတ်ဖွင့်တင်ဒါရောင်းချခဲ့ရာ တင်ဒါဆွဲဝယ်သူ (၅)ဦးတွင် တင်ဒါငွေကြေးသိန်း (၁၂၀၀)ဖြင့် ဈေးအများဆုံး ပေး၍ တင်ဒါလေလံဆွဲဝယ်မည့်သူ ဒေါ်ယုယုဝင်းသည် ကြမ်းခင်းဈေး (၄ပ၈. ၈၅)သိန်းကို ကျော်လွန်၍ဆွဲဝယ်ခဲ့ခြင်းဖြစ်ပြီး အဆိုပါကိစ္စအတွက် အိတ်ဖွင့်တင်ဒါစည်းကမ်းချက်အပိုဒ် (၈)အရ အိတ်ဖွင့်တင်ဒါဆွဲဝယ်ရရှိသူသည် တစ်ပတ်အတွင်း ငွေသွင်းရန်အတွက်လည်းကောင်း၊ အိတ်ဖွင့်တင်ဒါစည်းကမ်းချက်အပိုဒ် (၂၃)အရ တစ်ပတ်အတွင်း စာချုပ်ချုပ်ဆို လုပ်ကိုင်ရန်အတွက်လည်းကောင်း (၂၃. ၉. ၂၀၁၃) ရက်နေ့ နောက်ဆုံးထား၍ ဆောင်ရွက်သွားရန်လိုအပ်ကြောင်း၊ သို့ပါ၍ အထက်ဖော်ပြပါ တင်ဒါကြေးငွေပေးသွင်းခြင်း၊ စာချုပ်ချုပ်ဆိုခြင်းလုပ်ငန်းများကို ဆောင်ရွက်နိုင်ရန်အတွက် တင်ဒါစည်းကမ်းချက်အပိုဒ် (၂၂)အရ တန်ဖိုးငွေအများဆုံးပေး၍ အိတ်ဖွင့်တင်ဒါတင်သွင်းထားသူ ဒေါ်ယုယုဝင်းအား ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ အတည်ပြုပေးပါရန် တိုင်းဒေသကြီးငါးလုပ်ငန်းဦးစီးဌာနမှ ရည်ညွှန်းပါစာဖြင့် တင်ပြလာပါသည်။

၂။ အဆိုပါတင်ပြလာခြင်းနှင့်ပတ်သက်၍ (၂၆. ၉. ၂၀၁၃)ရက်နေ့တွင်ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၉/၂၀၁၃)၊ ဆုံးဖြတ်ချက်အပိုဒ် (၃၂)အရ တင်ဒါကြေးသိန်း (၁၂၀၀)ဖြင့် ဈေးအများဆုံးပေး၍ တင်ဒါလေလံဆွဲဝယ်သူ ဒေါ်ယုယုဝင်းအား အတည်ပြုကြောင်း အကြောင်းကြားပါသည်။

၃၄၃၄
၂. ၁၀. ၁၃
၁၂:၄၅

ဝန်ကြီးချုပ်(ကိုယ်စား)
(အောင်ကျော်စိုး၊ ဒုတိယညွှန်ကြားရေးမှူး)

မိတ္တူ
တိုင်းဒေသကြီးစိုက်ပျိုးရေးနှင့်မွေးမြူရေးဝန်ကြီး
လက်ခံစာတွဲ/မျှောစာတွဲ

မွေးမြူရေး၊ ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန
ရန်ကုန်တိုင်းဒေသကြီးငါးလုပ်ငန်းဦးစီးဌာန
စာအမှတ်   ၆ ၁၀ / ရကဝ၁   ၁၀၁ / ၂၀၁၅ (၂၅၀၈/၂၅၁၀
ရက်စွဲ ။   ။ ၂၀၁၅ ခုနှစ်၊ စက်တင်ဘာလ ( ၁၇ ) ရက်

သို့

ဥပဒေချုပ်ရုံး
ရန်ကုန်တိုင်းဒေသကြီး။

အကြောင်းအရာ။ ။ ကန်တော်ကြီးရေချိုငါးဥယျာဉ်ငှားရမ်းခြင်း သဘောတူစာချုပ် ပြင်ဆင်ချုပ်ဆိုရန်အတွက် ဥပဒေအကြံပြုချက်သဘောထားတောင်းခံခြင်းကိစ္စ။

ရည် ညွှန်း ချက် ။ ။ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ (၂၉.၇.၂၀၁၅) ရက်စွဲပါ စာအမှတ် - ၃/၆ - ၃ (၃၆)/ စိုက်မွေး

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ရန်ကုန်တိုင်းဒေသကြီးငါးလုပ်ငန်းဦးစီးဌာနနှင့် မြန်မာအက္ကာရီယမ်ကုမ္ပဏီလီမိတက်တို့၏ ကန်တော်ကြီးရေချိုငါးဥယျာဉ်ကို ခေတ်မီငါးပြတိုက်အဖြစ် ပြောင်းလဲလုပ်ကိုင်ရန် (၉.၁၀.၂၀၁၃) ရက်နေ့က ချုပ်ဆိုခဲ့သော ငှားရမ်းခြင်းသဘောတူစာချုပ်အပေါ် ငှားရမ်းသက်တမ်းနှင့် ငှားရမ်းခ ပြောင်းလဲသတ်မှတ်နိုင်ရေးအတွက် ပြင်ဆင်ချုပ်ဆိုမည့် ငှားရမ်းခြင်းဆိုင်ရာ နောက်ဆက်တွဲ သဘောတူစာချုပ် (မူကြမ်း) (ပူးတွဲ) အား ဥပဒေအကြံပြုချက် ပြုပေးနိုင်ပါရန် သဘောထားမှတ်ချက် တောင်းခံအပ်ပါသည်။

ကျော်မင်း
တိုင်းဒေသကြီးဦးစီးဌာနမှူး

မိတ္တူ။

- ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၊ ရန်ကုန်မြို့။
- မြန်မာအက္ကာရီယမ်ကုမ္ပဏီလီမိတက်၊ ဗိုလ်ချုပ်ပန်းခြံဝန်း၊ နတ်မောက်လမ်း၊ ဗဟန်းမြို့နယ်။
- ရုံးလက်ခံ/ မျှောစာတွဲ။

မွေးမြူရေး၊ ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန
ရန် ကုန် တိုင်း ဒေ သ ကြီး ငါး လုပ် ငန်း ဦး စီး ဌာ န ။
စာ အ မှတ် - ငလ / ရကတ / ၁ဂက / ၂၀၁၅ ( ၂၀၀၄ / ၂၀၀၄ )။
ရက် စွဲ ။ ။ ၂၀၁၅ခု နှစ် ဩဂုတ်လ ( ၇ ) ရက် ။

သို့

တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

အကြောင်းအရာ။ ။ **ကန်တော်ကြီးရေရှိုငါးဥယျာဉ် ငှားရမ်းလုပ်ကိုင်ခြင်း စာချုပ်အပေါ် ဥပဒေအကြံပြုချက်နှင့်အညီ စာချုပ်အား ပြင်ဆင်ချုပ်ဆိုရန် စာချုပ် (မူကြမ်း) တင်ပြခြင်း။**

ရည် ညွှန်း ချက်။ ။ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၏ (၂၉.၇.၂၀၁၅) ရက်စွဲပါ စာအမှတ် - ၃ / ၆ - ၃ (၃၆) / စိုက်မွေး

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ရန်ကုန်တိုင်းဒေသကြီး ငါးလုပ်ငန်းဦးစီးဌာနနှင့် မြန်မာအကွာရီယမ်ကုမ္ပဏီလီမိတက်တို့၏ ကန်တော်ကြီးရေရှိ ငါးဥယျာဉ်ကို ခေတ်မီငါးပြတိုက်အဖြစ်ပြောင်းလဲလုပ်ကိုင်ရန် (၉.၁၀.၂၀၁၃)ရက်နေ့က ချုပ်ဆိုခဲ့သော လုပ်ငန်းငှားရမ်းခြင်း စာချုပ်အပေါ် သက်တမ်းပြောင်းလဲသတ်မှတ်နိုင်ရေးအတွက် ရန်ကုန်တိုင်းဒေသကြီးဥပဒေချုပ်ရုံးမှ ဥပဒေအကြံပြုချက်နှင့်အညီ ပြင်ဆင်ချုပ်ဆိုရန် စာချုပ်မူကြမ်းအား လိုအပ်သလို ပြင်ဆင်ဖြည့်စွက်နိုင်ပါရန် ပူးတွဲတင်ပြအပ်ပါသည်။

ကျော်မင်း
တိုင်းဒေသကြီးဦးစီးဌာနမှူး

မိတ္တူကို
- မြန်မာအကွာရီယမ်ကုမ္ပဏီလီမိတက်၊ဗိုလ်ချုပ်ပန်းခြံဝန်း၊နတ်မောက်လမ်း၊ဗဟန်းမြို့နယ်
- ရုံးလက်ခံ။
- မျှောစာတွဲ။

## ငှားရမ်းခြင်းသဘောတူစာချုပ်

၁။ ဤစာချုပ်ကို ၂၀၁၅ခုနှစ်           လ (     )ရက်နေ့တွင် ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အနောက်ကြို့ကုန်း၊ ဒုံးရင့်နောင်လမ်းမကြီးတွင်တည်ရှိသည့် ရန်ကုန်တိုင်းဒေသကြီးငါးလုပ်ငန်းဦးစီးဌာန (နောင်တွင်အငှားချထားသူဟုခေါ်ဆိုရမည်ဖြစ်ပြီး ယင်းစကားရပ်တွင် အဆိုပါလုပ်ငန်း ဆက်ခံသူများ ဥပဒေအရ ခွင့်ပြုထားသည့် လွှဲအပ်ခြင်းခံရသူများ ကိုယ်စားလှယ်များ ပါဝင်သည်ဟုမှတ်ယူရမည်။) ကိုယ်စားတိုင်းဒေသကြီးဦးစီးဌာနမှူး ဦးကျော်မင်းက တစ်ဖက်နှင့် အခြားတစ်ဖက်တွင် ရန်ကုန်တိုင်းဒေသကြီး၊ ကမာရွတ်မြို့နယ်၊ (၁၀)ရပ်ကွက်၊ ဓမ္မစေတီလမ်း အမှတ် (၁၁၅)တွင် နေထိုင်သော ဒေါ်ယုယုဝင်း ၁၂/လသန(နိုင်) ၀၁၅၂၇၆ (နောင်တွင် အငှားချထားခြင်းခံရသူဟု ခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်တွင် ဒေါ်ယုယုဝင်း၏ တရားဝင် အခွင့်အရေးဆက်ခံသူများ၊ ဥပဒေအရခွင့်ပြုထားသည့် လွှဲအပ်ခြင်းခံရသူများ၊ တရားဝင်ကိုယ်စားလှယ်များ ပါဝင်သည်ဟု မှတ်ယူရမည်။) တို့သည် နှစ်ဦးနှစ်ဖက်သဘောတူ လက်မှတ်ရေးထိုးချုပ်ဆိုကြပါသည်။ (နောင်တွင် နှစ်ဖက်ပူးတွဲလျှက်ကို 'စာချုပ်ချုပ်ဆိုသူ' ဟူ၍လည်းကောင်း ရည်ညွှန်းမည်။)

(က) 'အငှားချထားခြင်းခံရသူ' သည် (အောက်တွင်ဖော်ပြထားသည့်) မြေနှင့် ရပိုင်ခွင့်များကို အသုံးပြု၍ ငွေကြေးပမာဏ အမေရိကန်ဒေါ်လာ (၃၂)သန်း ရင်းနှီးမြှုပ်နှံလျှက် ကန်တော်ကြီးရေချိုငါးဥယျာဉ်အား ငါးလုပ်ငန်းဆိုင်ရာ ဗဟုသုတများရရှိရန်နှင့် အများပြည်သူများ စိတ်ဝင်စားစွာ လေ့လာအပန်းဖြေနိုင်ရန်အတွက် အဆင့်မြှင့်တင် ပြုပြင်ခြင်းလုပ်ငန်းများကို ဆောင်ရွက်ရန်နှင့် ကန်တော်ကြီးရေချိုငါးဥယျာဉ်အား ငှားရမ်းလုပ်ကိုင်ရန် ဆန္ဒရှိသည်က တစ်ကြောင်း၊

(ခ) 'အငှားချထားသူ'ကလည်း ကန်တော်ကြီးရေချိုငါးဥယျာဉ် ငှားရမ်းလုပ်ပိုင်ခွင့်နှင့် ရပိုင်ခွင့်များတွင် မိမိလုံးလုံးလျားလျား တရားဝင်အကျိုးခံစားခွင့် ရှိကြောင်းကိုလည်းကောင်း၊ ယင်းမြေငှားရမ်းခွင့်နှင့် ရပိုင်ခွင့်များကို နောင်တွင်ပါရှိသည့် စည်းကမ်းချက်များဖြင့် အငှားချထားခြင်းခံရသူအား အငှားချထားရန် လိုလားကြောင်းကိုလည်းကောင်း အခိုင်အမာပြောဆို၍ အာမခံသည်ကတစ်ကြောင်း၊

(ဂ) 'အငှားချထားသူ' နှင့် 'အငှားချထားခြင်းခံရသူ' တို့သည် ဤအငှားစာချုပ်ကို ချုပ်ဆိုရန် သဘောတူကြသည်ကတစ်ကြောင်း၊

၂။ ထိုအကြောင်းများကြောင့် အောက်တွင်ပါရှိသည့် စာချုပ်ချုပ်ဆိုသူများ၏ တာဝန်ခံချက်များကို အထောက်အထားပြု၍ ဤစာချုပ်ကို ချုပ်ဆိုသူများသည် အောက်ပါအတိုင်းသဘောတူကြပါသည်။

(က) အဓိပ္ပာယ်ဖော်ပြချက်များ ဤအငှားစာချုပ်ပါကိစ္စအလို့ငှာ အောက်ဖော်ပြပါစကားလုံးများနှင့်စကားရပ်များသည် ဖော်ပြပါအတိုင်း အဓိပ္ပာယ်သက်ဝင်ရမည်။

(၁) ရပိုင်ခွင့်။ ရန်ကုန်တိုင်းဒေသကြီး ဗဟန်းမြို့နယ်၊ ကန်တော်ကြီးရေချိုငါးဥယျာဉ် ခန့်မှန်းဧရိယာ (၅.၀၀)ဧက ကျယ်ဝန်းသော မြေပေါ်တွင်တည်ရှိသည့် ရေချိုငါးဥယျာဉ်ဆိုင်ရာ ရုံး/ ညှိခန်း/ အဆောက်အအုံ(၁)ခု၊ နားနေဆောင်(၁)ခု၊ ပြခန်းအဆောက်အအုံ(၁)ခု၊ အငှားချဆိုင်ခန်း(၁၀)ခန်း၊ ရေတံခွန်(၁)ခု၊ စမ်းချောင်း(၁)ခု၊ လိုဏ်ဂူ(၁)ခု၊ တံတား(၃)စင်း၊ တိရစ္ဆာန်ရုပ်ထု(၄)မျိုး၊ ငါးပြကန်(၂၃)ခု၊ ငါးအလှပြမှန်ကန် (၂၄)ခု၊ မိကျောင်း၊ ရေပုတ်သင်၊ ရေလိပ်၊ ကုန်းလိပ်၊ အလှမွေးငါးကောင်ရေ (၁၀၈၃၂)ကောင်၊ လုပ်ငန်းသုံးစက်ကိရိယာများ၊ ပန်းအလှပင်များကို ဆိုလိုသည်။

(၂) ဥပဒေ။ မြန်မာနိုင်ငံလက်ရှိ ကျင့်သုံးနေသော တည်ဆဲအက်ဥပဒေများ၊ နည်းဥပဒေများ၊ ဥပဒေများ အမိန့်ကြော်ငြာစာများ အမိန့်များ လုပ်ထုံးလုပ်နည်းများ၊ စည်းမျဉ်းစည်းကမ်းများကို ဆိုလိုသည်။

(၃) ငှားရမ်းခ။ အငှားစာချုပ်အပိုဒ် (၄)(ခ)တွင် ထိုစကားရပ်အတွက် ပေးထားသည့် အဓိပ္ပာယ် သက်ဝင်သည်။

၃။ အငှားချထားခြင်းနှင့် အငှားစာချုပ်၏သက်တမ်း

(က) ဤအငှားစာချုပ်၌ သီးသန့်ပါရှိသော ငှားရမ်းခနှင့်ပဋိညာဉ်များကို အထောက်အထားပြု၍ အငှားချထားသူက မြေနှင့်ရပိုင်ခွင့်များကို အငှားချထားခြင်းခံရသူအား အငှားချထားပါသည်။ အငှားချထားသူသည် မြေနှင့်ရပိုင်ခွင့်များပေါ်ရှိ ကျူးကျော်သူများ၊ တရားမဝင်နေထိုင်သူများ၊ အိမ်ငှားများ၊ ထပ်ဆင့်အိမ်ငှားများ၊ ခွင့်ပြုမိန့်ဖြင့် နေထိုင်သူများကို ဖယ်ရှားပေးခြင်း၊ နေရာချထားပေးခြင်းတို့ကို ဆောင်ရွက်ပေးရမည်။ အငှားချထားသူသည် မြေနှင့်ရပိုင်ခွင့်များကို (၉-၁၀-၂၀၁၃) ရက်နေ့တွင် အငှားချထားခြင်းခံရသူအား လက်ရှိထားပိုင်ခွင့်ကို လက်ရောက်ပေးအပ်ရာ အငှားချထားခြင်းခံရသူမှ ကောင်းမွန်စွာလက်ခံရရှိပါကြောင်း ဝန်ခံကတိပြုပါသည်။

(ခ) အငှားစာချုပ်၏ သက်တမ်းသည် (၉-၁၀-၂၀၁၃) ရက်နေ့မှ ကနဦးသက်တမ်း (၂၀) နှစ် ('ကနဦးသက်တမ်း')ဖြစ်ရမည်။ ကနဦးသက်တမ်းကုန်ဆုံးပြီးနောက် ဤအငှားစာချုပ်ကို နှစ်ဦးနှစ်ဖက် သဘောတူညီချက်ဖြင့် (၁၀)နှစ် (တစ်ဆယ်နှစ်)စီ၊ နောက်ထပ်(၂)ကြိမ်အထိ သက်တမ်းတိုးမြှင့်နိုင်သည်။ အငှားချထားခြင်းခံရသူသည် သက်တမ်းတိုးဆောင်ရွက်လိုပါက အငှားချထားသူသို့ ကျရောက်ဆဲ စာချုပ်သက်တမ်းမကုန်ဆုံးမီ (၆)လ ကြိုတင် အကြောင်းကြားရမည်။

၄။ ငွေပေးချေရန်စည်းကမ်းများ

(က) 'အငှားချထားခြင်းခံရသူ' အပိုဒ် ၄ (ခ)ပါ ငှားရမ်းခများကို (၁)နှစ်လျှင် တစ်ကြိမ် အပြေအကြေ ပေးသွင်းရမည်ဖြစ်ပြီး နှစ်စဉ် စက်တင်ဘာလ (၃၀)ရက်နေ့တွင် နောက်ဆုံးထား ပေးသွင်းရမည်။ အငှားချထားခြင်းခံရသူသည် စာချုပ်ချုပ်ဆိုပြီးနောက် လုပ်ငန်းဆက်လက် လုပ်ကိုင်လိုခြင်းမရှိပါက ကျရောက်ဆဲစာချုပ်သက်တမ်းကာလအတွက် ငှားရမ်းခငွေများကို အပြေအကြေ ပေးသွင်းရမည်။ အငှားချထားခြင်းခံရသူသည် ကနဦးသက်တမ်း (၂၀)နှစ် လုပ်ကိုင်ပြီးစီး၍ သက်တမ်းတိုး ပထမ(၁၀)နှစ် ဆက်လက်လုပ်ကိုင်လိုလျှင်သော်လည်းကောင်း၊ သက်တမ်းတိုး ဒုတိယ(၁၀)နှစ် ဆက်လက်လုပ်ကိုင်လိုလျှင်သော်လည်းကောင်း နှစ်ဦးနှစ်ဘက် ညှိနှိုင်းသတ်မှတ်သည့် နှစ်စဉ်ငှားရမ်းခငွေများကို နှစ်စဉ် အပြေအကြေပေးသွင်းရမည်။ နှစ်အလိုက် ငှားရမ်းခနှုန်းထားများကို (၅)နှစ်လျှင် တစ်ကြိမ် နှစ်ဦးနှစ်ဘက် ညှိနှိုင်းသတ်မှတ်ရမည်။

ထိုသို့ညှိနှိုင်းသတ်မှတ်ရာတွင် ပြီးခဲ့သော (၅)နှစ်ကာလအတွက် နှစ်စဉ်ငှားရမ်းခနှုန်းထား၏(၂၀%)ထက် မပိုစေရန် သဘောတူကြပါသည်။

(ခ) အငှားချထားခြင်းခံရသူသည် ငှားရမ်းခကို အောက်ဖော်ပြပါနှုန်းအတိုင်းပေးချေရမည်။

(၁) ကနဦးသက်တမ်း (၂၀)နှစ်အတွင်း ၂၀၁၃-၂၀၁၄ ခုနှစ်နှင့် ၂၀၁၄-၂၀၁၅ ခုနှစ်များအတွက် တစ်နှစ်လျှင် ကျပ်သိန်း(၁၂၀၀)နှုန်း (ကျပ်သိန်းတစ်ထောင့်နှစ်ရာတိတိ) ကို ငှားရမ်းခအဖြစ် နှစ်စဉ်ပေးချေရမည်။

(၂) ကနဦးသက်တန်း (၂၀)နှစ်အတွင်း ၂၀၁၅-၂၀၁၆ ခုနှစ်မှ ၂၀၁၇-၂၀၁၈ ခုနှစ်များအတွက် တစ်နှစ်လျှင် ကျပ်သိန်း (၁၂၆၀)နှုန်း (ကျပ်သိန်းတစ်ထောင့်နှစ်ရာခြောက်ဆယ်တိတိ) ကို ငှားရမ်းခအဖြစ် နှစ်စဉ်ပေးချေရမည်။

(၃) ကနဦးသက်တမ်း(၂၀)နှစ်အတွင်း ၂၀၁၈-၂၀၁၉ခုနှစ် မှ ကျန်သော နှစ်များအတွက် (၅)နှစ်လျှင်တစ်ကြိမ် နှစ်ဦးနှစ်ဘက် ညှိနှိုင်းသတ်မှတ်သည့် နှစ်အလိုက် ငှားရမ်းခနှုန်းထားများအတိုင်း နှစ်စဉ်ပေးချေရမည်။

(၄) ပထမအကြိမ် သက်တမ်းတိုး (၁၀)နှစ်အတွက် (၅)နှစ်လျှင်တစ်ကြိမ် နှစ်ဦးနှစ်ဘက် ညှိနှိုင်းသတ်မှတ်သည့် နှစ်အလိုက် ငှားရမ်းခနှုန်းထားများအတိုင်း နှစ်စဉ်ပေးချေရမည်။

(၅) ဒုတိယအကြိမ် သက်တမ်းတိုး(၁၀)နှစ်အတွက် (၅)နှစ်လျှင်တစ်ကြိမ် နှစ်ဦးနှစ်ဘက် ညှိနှိုင်းသတ်မှတ်သည့် နှစ်အလိုက် ငှားရမ်းခနှုန်းထားများအတိုင်း နှစ်စဉ်ပေးချေရမည်။

၅။ အငှားချထားခြင်းခံရသူ၏ တာဝန်များ။ ။ အငှားချထားခြင်းခံရသူသည် အငှားစာချုပ်၏ သက်တမ်းအတွင်း အောက်ဖေါ်ပြပါများကို ဆောင်ရွက်ရန် သဘောတူညီကြောင်း ပဋိညာဉ်ပြုပါသည်။

(က) ငှားရမ်းခများကို အထက်အပိုဒ်(၄)ပါ သတ်မှတ်ချက်များနှင့်အညီ ပေးချေရမည်။

(ခ) အငှားချထားခြင်းခံရသူသည် ကန်တော်ကြီးရေချိုငါးဥယျာဉ်အား ငါးလုပ်ငန်းဆိုင်ရာ ဗဟုသုတများရရှိရန်နှင့် အများပြည်သူစိတ်ဝင်စားဖွယ် လေ့လာအပန်းဖြေနိုင်ရန်အတွက် အဆင့်မြှင့်တင်ခြင်း လုပ်ငန်းများကို ဆောင်ရွက်ရမည်။

(ဂ) အငှားချထားခြင်းခံရသူသည် လုပ်ကိုင်ခွင့်ရ ရေချိုငါးဥယျာဉ်လုပ်ငန်းတွင် စိတ်ဝင်စားဖွယ် ရေချိုငါးမျိုးစိတ်များအပြင် ရေငန်ငါးမျိုးစိတ်များကိုပါ တိုးချဲ့ပြသနိုင်ရန် စီစဉ်ဆောင်ရွက်ရမည်။

(ယ) အငှားချထားခြင်းခံရသူသည် မိမိလုပ်ပိုင်ခွင့်ရရှိထားသော ကန်တော်ကြီးရေချိုငါးဥယျာဉ်ဆိုင်ရာ လုပ်ငန်းအားလုံးသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုလည်းကောင်း၊ တစ်ဆင့်ခံ ကန်ထရိုက် (Sub-Contract) လွှဲပြောင်းလုပ်ကိုင်ခွင့်မပြုရ။

(ရ) အငှားချထားခြင်းခံရသူသည် လုပ်ငန်းလိုအပ်ချက်အရ အဆောက်အဦးများပြုပြင်ခြင်း၊ တိုးချဲ့ တည်ဆောက်ခြင်း၊ အသစ်တည်ဆောက်ခြင်းအပါအဝင် သစ်ပင်နှင့်ငါးမျိုးစိတ်များကို တိုးချဲ့ခြင်း၊ လျော့ချခြင်းတို့ကို ပြုလုပ်ရန်အတွက် အငှားချထားသူ၏ ခွင့်ပြုချက်ရရှိပြီးမှသာ ဆောင်ရွက်ရမည်။

(စ) အငှားချထားခြင်းခံရသူသည် ငါးဥယျာဉ်အား ပြုပြင်မွမ်းမံတည်ဆောက်ခြင်းလုပ်ငန်းများ မစတင်မီ (၁)လကြိုတင်၍ လုပ်ငန်းအစီအမံများ၊ ပုံစံများ၊ တွက်ချက်မှုများကို အငှားချထားသူထံ တင်ပြအတည်ပြုချက်ရယူရမည်။

(ဆ) ကန်တော်ကြီးရေချိုငါးဥယျာဉ်နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများ၏ စည်းကြပ်အခွန်အခများကို အငှားချထားခံရသူမှ ပေးဆောင်ရမည်။

(ဇ) အငှားချထားခြင်းခံရသူသည် ကန်တော်ကြီးရေချိုငါးဥယျာဉ်၏ ဂိတ်ဝင်ကြေးနှုန်း၊ ဖွင့်ချိန်၊ ပိတ်ချိန် များကို ပြင်ဆင်သတ်မှတ်လိုပါက အငှားချထားသူနှင့် ကြိုတင်ညှိနှိုင်းရယူ ဆောင်ရွက်ရမည်။

(ဈ) ရေချိုငါးဥယျာဉ်အား အငှားချထားစဉ်ကာလအတွင်း အငှားချထားသည့်မြေမှ အရင်းအမြစ် အမျိုးမျိုးနှင့် ရှေးဟောင်းပစ္စည်းများတွေ့ရှိလျှင် အငှားချထားသူက ပိုင်ဆိုင်ရမည်။

(ည) အငှားချထားခြင်းခံရသူသည် သဘာဝဘေးဒဏ်ကြောင့်ဖြစ်စေ၊ ရန်သူမျိုးငါးပါးကြောင့်ဖြစ်စေ၊ အငှားချလုပ်ငန်းအား ထိခိုက်ပျက်စီးခြင်းများဖြစ်ပေါ်လာပါက ဆုံးရှုံးမှုအတွက် အငှားချထားသူ ထံသို့ လျော်ကြေးတောင်းခံခြင်းမရှိစေရ။

(ဋ) အငှားချထားခြင်းခံရသူ လုပ်ကိုင်မည့်လုပ်ငန်းများသည် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီလုပ်ကိုင်ရမည်။

(ဌ) ကန်တော်ကြီးရေချိုငါးဥယျာဉ်ဆိုင်ရာ လုပ်ငန်းများကို (၆)လတစ်ကြိမ် (သို့မဟုတ်) အခါ အားလျော်စွာစစ်ဆေးခြင်းခံရခြင်းကို အငှားချထားခြင်းခံရသူမှ သဘောတူလက်ခံရမည်။

(ဍ) အငှားချထားခြင်းခံရသူသည် စာချုပ်ပါစည်းကမ်းချက်များကို လိုက်နာဆောင်ရွက်ခြင်း မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ပထမအကြိမ်သတိပေးခြင်းများကို အငှားချထားသူမှ ပြုလုပ်မည်။ စာချုပ်ပါ စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်ခြင်းမရှိကြောင်း တတိယအကြိမ်ထိ စစ်ဆေးတွေ့ရှိပါက အငှားချထားခြင်းကို ရပ်စဲခံရမည်ဖြစ်ပြီး လုပ်ကိုင်ဆဲစာချုပ်နှစ်အတွက် ပေးသွင်းရန်ငွေများကို ပေးသွင်းရန် တာဝန်ယူရမည်။

(ဎ) အငှားချထားခြင်းခံရသူ တိုးချဲ့ဆောင်ရွက်သောလုပ်ငန်းများသည် ကန်တော်ကြီးရေချိုငါးဥယျာဉ်၏ မူလရည်ရွယ်ချက်ကိုလည်းကောင်း သဘာဝပတ်ဝန်းကျင်ကိုလည်းကောင်း ထိခိုက်ပျက်စီးစေသော လုပ်ငန်းများမဖြစ်စေရ။ ၎င်းအပြင် မြန်မာ့ယဉ်ကျေးမှုနှင့် ဂုဏ်သိက္ခာထိခိုက်ညှိုးနွမ်းစေသော လုပ်ငန်းများကို တိုးချဲ့လုပ်ကိုင်ခြင်း၊ အငှားချထားခြင်းများခွင့်မပြု။

(ဏ) စာချုပ်ပါစည်းကမ်းဖေါက်ဖျက်၍လည်းကောင်း၊ စာချုပ်ပျက်ပြယ်ရပ်စဲလျှင်သော်လည်းကောင်း၊ စာချုပ်သက်တမ်းပြည့်၍ ငှားရမ်းခွင့်ကုန်ဆုံးလျှင်သော်လည်းကောင်း၊ ငါးလုပ်ငန်းဦးစီးဌာနမှ လွှဲပြောင်းပေးအပ်ထားသော ပစ္စည်းများ၊ အဆောက်အဦးများ (သို့မဟုတ်) ပြင်ဆင်ဆောက်လုပ်ထားသော အဆောက်အဦးများအပါအဝင် တိုးချဲ့ခြင်း၊ လျော့ချခြင်းပြုလုပ်ထားသော သစ်ပင်များ၊ ငါးမျိုးစိတ်များကို ပြန်လည်လွှဲပြောင်းပေးအပ်ရမည်။ ၎င်းအပြင် အငှားချထားခြင်းခံရသူမှ တိုးချဲ့ဆောက်လုပ်ထားသော အဆောက်အဦးများ၊ မရွှေ့မပြောင်းနိုင်သော ပစ္စည်းများကို အငှားချထားခြင်းခံရသူမှ အငှားချထားသူထံသို့ ပြန်လည်လွှဲပြောင်း ပေးအပ်ရမည်။

(တ) အငှားချထားခံရသူနှင့် အငှားချထားသူတို့သည် နှစ်ဦးနှစ်ဖက်သဘောတူညီချက်ဖြင့် စာချုပ်ပါ စည်းကမ်းများကို ပြင်ဆင်ပြောင်းလဲခြင်းပြုလုပ်နိုင်သည်။

(ထ) ကန်တော်ကြီးရေချိုငါးဥယျာဉ်အား ပိုမိုကောင်းမွန်အောင် ပြုပြင်ရေး၊ တိုးချဲ့ရင်းနှီး မြှုပ်နှံခြင်းတို့ကို အငှားချထားသူ၏ ကြိုတင်ညှိနှိုင်း သဘောတူညီချက်ဖြင့်လည်းကောင်း၊ အငှားချထားခံရသူ၏ အဆိုပြုလွှာအရလည်းကောင်း၊ (၉-၁၀-၂၀၁၃)ရက်နေ့မှစ၍(၂)နှစ်အတွင်း ဆောင်ရွက်ရမည်။

(ဒ) ငှားရမ်းကာလအတွင်း မီးအာမခံနှင့် လုပ်ငန်းအတွက် အခြားလိုအပ်သော အာမခံများကို မြန်မာ့အာမခံလုပ်ငန်း၏ သတ်မှတ်ပြဋ္ဌာန်းချက်များနှင့်အညီ အငှားချထားခြင်းခံရသူက တာဝန်ယူထားရှိရန်နှင့် အာမခံအကျိုးခံစားခွင့်အား အငှားချထားခြင်းခံရသူက ရရှိစေရမည်။ ထိုကာလအတွင်း အာမခံအကျိုးခံစားခွင့်ခံစားပြီးနောက် အငှားချထားခြင်းခံရသူသည် ရေချိုငါးဥယျာဉ်အား အဆိုပြုလုပ်ငန်းစဉ်များအတိုင်း ဆက်လက်တာဝန်ယူအကောင်အထည်ဖေါ်ဆောင်ရွက်ပေးရမည်။

(ဓ) စာချုပ်ပါလုပ်ငန်းများဆောင်ရွက်ရာတွင် နည်းပညာအရသော်လည်းကောင်း၊ စီမံခန့်ခွဲမှုအရသော်လည်းကောင်း၊ အခြားကုမ္ပဏီတစ်ခု၏အကူအညီဖြင့် ရယူဆောင်ရွက်နိုင်သည်။

၆။ အငှားချထားသူ၏တာဝန်များ။ ။ အငှားချထားခြင်းခံရသူက ငှားရမ်းခပေးချေခြင်းကိုလည်းကောင်း၊ ဤအငှားစာချုပ်ပါ ပဋိညာဉ်များ၊ စည်းကမ်းချက်များနှင့် သဘောတူညီချက်များ အတိုင်းဆောင်ရွက်၍ လိုက်နာခြင်းကိုလည်းကောင်း အထောက်အထားပြု၍ အငှားချထားသူက အငှားချထားခြင်းခံရသူနှင့် အောက်ဖော်ပြပါအတိုင်း ပဋိညာဉ်ပြုပါသည်။

(က) ငှားရမ်းထားခြင်းခံရသူအား ဤအငှားစာချုပ်၌ ခွင့်ပြုထားသည့်သက်တမ်းအတွက် ရပိုင်ခွင့်များကို အငှားချထားသူ၏ (သို့မဟုတ်) အငှားချထားသူမှတဆင့် (သို့မဟုတ်) အငှားချထားသူအတွက် ယုံကြည်အပ်နှံမှုမှ တရားဝင်ဆိုင်ရာ တောင်းဆိုသူများ၏ အနှောက်အယှက်မရှိဘဲ ငြိမ်းချမ်းအေးဆေးစွာ လက်ရှိထားရှိ၍ ခံစားခွင့်ပြုရမည်။

(ခ) အငှားချထားခြင်းခံရသူက ရပိုင်ခွင့်များနှင့်စပ်လျဉ်း၍ စီမံဆောင်ရွက်ရာ၌ အခါအားလျော်စွာ ပေါ်ပေါက်လာသော ခက်အခဲများကို အငှားချထားခြင်းခံရသူ၏စရိတ်ဖြင့် ကူညီပံ့ပိုးဖြေရှင်းပေးရမည်။

၇။ မြေသို့ပြန်လည်ဝင်ရောက်နိုင်ခွင့်။ ။အငှားချထားခြင်းခံရသူက ဤစာချုပ်ပါ စည်းကမ်းများကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန်ပျက်ကွက်လျှင်သော်လည်းကောင်း၊ ထိုသို့ပျက်ကွက်ကြောင်း အငှားချထားသူက ချအပ်သောနို့တစ်စာပါကာလများအတွင်းမဆောင်ရွက်မှု (သို့မဟုတ်) မလိုက်နာမှုကို ပြင်ဆင်ပေးရန်ပျက်ကွက်လျှင်သော်လည်းကောင်း၊ စာချုပ်ပျက်ပြယ်ရပ်စဲလျှင်သော်လည်းကောင်း၊ အငှားချထားသူတွင် အငှားစာချုပ်နှင့် သက်ဆိုင်အကျုံးဝင်သော ပစ္စည်းတစ်ရပ်လုံးပေါ်တွင် ငြိမ်းချမ်းအေးဆေးစွာ ပြန်လည်ဝင်ရောက်၍ လက်ရှိထားပိုင်ခွင့်ရှိရမည်။ ထိုအခါ ဤအငှားစာချုပ်သည် ရပ်စဲ၍ဆုံးခန်းတိုင်ရောက်ရမည်ဟူ၍ နှစ်ဦးနှစ်ဖက် သဘောတူကြပါသည်။

၈။ မလွန်ဆန်နိုင်သောဖြစ်ရပ်များ

(က) စာချုပ်ချုပ်သူတစ်ဖက်က 'မလွန်ဆန်နိုင်သောဖြစ်ရပ်များ' ကြောင့် ယင်း၏တာဝန်များကို ဆောင်ရွက်ရန် (သို့မဟုတ်) ဤသဘောတူစာချုပ်အရ စာချုပ်ချုပ်ဆိုသူအခြားတစ်ဖက်က တာဝန်ယူဆောင်ရွက်ခြင်းကို လက်ခံရန်လုံးလုံးလျားလျားဖြစ်စေ၊ တစ်စိတ်တစ်စေသဖြစ်စေ၊ ယာယီမစွမ်းဆောင်နိုင်လျှင် ထိခိုက်သည့်ဘက်က အခြားတစ်ဖက်အား အထောက်အထားပြုသည့် အကြောင်းအရင်းဖြစ်ပွားပြီးနောက် (၁၄)ရက်အတွင်း မလွန်ဆန်နိုင်သည့်ဖြစ်ရပ်ကို အပြည့်အစုံစာဖြင့်ရေးသား၍ အကြောင်းကြားရန် သဘောတူထားကြပါသည်။မလွန်ဆန်နိုင်သောဖြစ်ရပ်၏ အကြောင်းအရင်းကို လျှင်မြန်နိုင်သမျှ လျှင်မြန်စွာဖယ်ရှားရမည်။ မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် စာချုပ်ပါကိစ္စရပ်များအား ဆက်လက်ဆောင်ရွက်နိုင်ခြင်းမရှိလျှင် စာချုပ်ချုပ်ဆိုသူတစ်ဖက်သည် စာချုပ်အားရပ်စဲနိုင်သည်။

(ခ) 'မလွန်ဆန်နိုင်သောဖြစ်ရပ်'ဆိုသည်မှာ သဘာဝအတိုင်းကျရောက်သည့် ဘေးဒုက္ခ၊ အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ သပိတ်မှောက်ခြင်း၊ စစ်ပွဲများ၊ တရားဥပဒေစိုးမိုးမှုနှင့် ငြိမ်ဝပ်ပိပြားမှုပျက်ပြယ်ခြင်း၊ ပေါက်ကွဲမှု၊ မီးလောင်မှု၊ ရေကြီးမှု၊ ငလျှင်လှုပ်ခြင်း၊ လေမုန်တိုင်းကျခြင်းများနှင့် ဖော်ပြထားသည်များနှင့် အလားတူဖြစ်သည့် အခြားအကြောင်းများကို ဆိုလိုသည်။ ယင်းအကြောင်းများကို မည်သည့်ဘက်ကမျှ မထိန်းချုပ်နိုင်သည့်အပြင် အလေးဂရုနှင့်လုံလဝရိယစိုက်ထုတ်သင့်သလောက် စိုက်ထုတ်သော်လည်း ကျော်လွှားခြင်းငှာ မစွမ်းနိုင်သောဖြစ်ရပ်များဖြစ်သည်။

၉။ စာချုပ်ရပ်စဲခြင်း

(က) အောက်ဖော်ပြပါ အခြေအနေတစ်ရပ်ရပ် ဖြစ်ပွားပေါ်ပေါက်လာပါက ဤအငှားစာချုပ်သည် ပျက်ပြယ်ရပ်စဲသည်။

(၁) အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့ နှစ်ဦးနှစ်ဖက် စာချုပ်ရပ်စဲရန် သဘောတူညီခြင်း။

(၂) စာချုပ်ဝင်တစ်ဖက်ဖက်က စာချုပ်ပါ ဆောင်ရွက်ချက် သို့တည်းမဟုတ် လိုက်နာရန် တာဝန်များပျက်ကွက်သဖြင့် ပြင်ဆင်ရန် အကြောင်းကြားခဲ့သော်လည်း ရက်ပေါင်း (၆၀)အတွင်း ပြင်ဆင်မှုမရှိခြင်း။

(၃) ကြိုတင်မမျှော်မှန်းနိုင်သော မလွန်ဆန်နိုင်သောဖြစ်ရပ်များ ပေါ်ပေါက်လာခြင်း။

(၄) စာချုပ် သတ်မှတ်သက်တမ်းကုန်ဆုံးခြင်း။

(၅) ဤစာချုပ်ချုပ်ဆိုသူများ၏ လုပ်ငန်းရပ်စဲလိုကြောင်းစာဖြင့်ရေးသားတင်ပြချက်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပြီးနောက်မှသာ အကျိုးသက်ရောက်မှု ရှိစေရမည်။

၁၀။ အနုညာတခုံတင်အဆုံးအဖြတ်ခံယူခြင်း

(က) ဤသဘောတူစာချုပ်မှာဖြစ်စေ ၊ ဤသဘောတူစာချုပ်နှင့်စပ်လျဉ်း၍ ချုပ်ဆိုသည့် အခြားသဘောတူစာချုပ် (သို့မဟုတ်) စာချုပ်စာတမ်းမှာဖြစ်စေ အငြင်းပွားမှုဖြစ်ပေါ်လျှင် စာချုပ်ချုပ်ဆိုသူများသည် အဆိုပါအငြင်းပွားမှုကို မိတ်ဝတ်မပျက် ဖြေရှင်းရန်အလို့ငှာအချင်းချင်းသဘောရိုးဖြင့် ညှိနှိုင်းတိုင်ပင်ကြရမည်။

(ခ) အဆိုပါအငြင်းပွားမှုကို မိတ်ဝတ်မပျက်မဖြေရှင်းနိုင်လျှင် ၊ ယင်းအငြင်းပွားမှုကို အနုညာတခုံတင် အဆုံးအဖြတ်ခံယူ၍ ဖြေရှင်းရမည် ။ ယင်းအနုညာတခုံတွင် စာချုပ်ချုပ်ဆိုသူအသီးသီးက ခုံလူကြီးတစ်ဦးစီခန့်၍ ယင်းလူကြီးနှစ်ဦးဖြင့် ဖြေရှင်းရမည်။ ယင်းခုံလူကြီးများက သဘောတူညီမှုမရှိလျှင် အဆိုပါအငြင်းပွားမှုကို ယင်းလူကြီးများက အမည်တင်သွင်း၍ ဒိုင်လူကြီးထပ်လွှဲအပ်ရမည်။ ခုံလူကြီးများ၏ (သို့မဟုတ်) ဒိုင်လူကြီး၏ အဆုံးအဖြတ်ချက်သည် စာချုပ်ချုပ်ဆိုသူနှစ်ဖက်လုံးပေါ်တွင် အပြီးအပြတ်တည်ရမည်။

(ဂ) အနုညာဘခုံတွင် အဆုံးအဖြတ်ခံယူသည့်ကိစ္စများသည် ၁၉၄၄ ခုနှစ် အနုညာတခုံသမာဓိ အက်ဥပဒေ (၁၉၄၄ ခုနှစ် မြန်မာနိုင်ငံအက်ဥပဒေအမှတ် ၄)နှင့်ဖြစ်စေ၊ယင်းအက်ဥပဒေ၏ တည်ဆဲပြင်ဆင်ချက်နှင့်ဖြစ်စေ အဖက်ဖက်အားလုံးတွင် ကိုက်ညီရမည်။အနုညာတခုံတင် အဆုံးအဖြတ်ခံယူရာနေရာသည် မြန်မာနိုင်ငံ၊ ရန်ကုန်မြို့ဖြစ်ရမည်၊အနုညာခုံတင် အဆုံးအဖြတ်ခံယူခြင်းဆိုင်ရာ အစရိတ်စကြေးငွေများကို ရှုံးနိမ့်သွားသည့်ဘက်က ကျခံရမည်။

၁၁။ ကျွမ်းကျင်သူများအားငှားရမ်းခြင်း

(က) ကန်တော်ကြီးရေချိုငါးဥယျာဉ်အား အဆင့်မြှင့်တင်ခြင်းလုပ်ငန်းများကို ဆောင်ရွက်ရာတွင် လိုအပ်လာပါက ပြည်တွင်းပြည်ပမှ ကျွမ်းကျင်သူများကို အငှားချထားခြင်းခံရသူက ငှားရမ်း၍ တာဝန်ပေးအပ်နိုင်သည်။

(ခ) အဆိုပါပြည်ပမှကျွမ်းကျင်သူများသည် မြန်မာနိုင်ငံတွင် နေထိုင်စဉ်ကာလအတွင်း ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တည်ဆဲစည်းမျဉ်းဥပဒေများကို လေးစားလိုက်နာရန်နှင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၏ပြည်တွင်းရေးကိစ္စများကို ဝင်ရောက်စွက်ဖက်ခြင်းမပြုရန်၊ အငှားချထားခြင်းခံရသူက တာဝန်ယူရမည်။

၁၂။ ကင်းလွတ်ခွင့်သက်သာခွင့်များ

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေတွင်ပြဋ္ဌာန်းထားသော အခွန်ကင်းလွတ်ခွင့်များ အကောက်ခွန်ကင်းလွတ်ခွင့်များနှင့်အခြားသက်သာခွင့်များကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုချက်ဖြင့် ခံစားခွင့်ရှိစေရမည်။

၁၃။ အဆောက်အဦးနှင့်ရပိုင်ခွင့်များပြန်လည်လွှဲပြောင်းခြင်း။ ။အငှားစာချုပ်သက်တမ်း ကုန်ဆုံးပြီးနောက် ဖြစ်စေ၊ အကြောင်းတစ်စုံတစ်ရာကြောင့် စာချုပ်ရပ်စဲလျှင်ဖြစ်စေ၊ အငှားချထားသောမြေနှင့် မြေပေါ်ရှိရပိုင်ခွင့်များနှင့် အငှားချထားခြင်းခံရသူမှ တိုးချဲ့ရင်းနှီးမြှုပ်နှံမှုများကို အငှားချထားသူသို့ အခမဲ့လွှဲပြောင်းပေးရမည်။

၁၄။ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း

(က) အငှားချထားခြင်းခံရသူသည် မြေနှင့်ရပိုင်ခွင့်များ၏ နယ်မြေနှင့်အနီးတစ်ဝိုက်ကို ပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်ရန်အတွက် တာဝန်ရှိရမည်။

(ခ) အငှားချထားခြင်းခံရသူသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ ဥပဒေများအရခွင့်ပြုသည့် အဆင့်နှင့်စံအတွင်း လေထုညစ်ညမ်းမှု၊ ရေထုညစ်ညမ်းမှု၊ မြေထုညစ်ညမ်းမှုနှင့် အခြားပတ်ဝန်းကျင် ညစ်ညမ်းလာခြင်းကို ထိန်းချုပ်ရမည်။

၁၅။ ဓါတ်သတ္တုပင်ရင်းအခြေအမြစ်များနှင့်ရှေးဟောင်းပစ္စည်းများ။ ။ ဤအငှားစာချုပ်၏ သက်တမ်းအတွင်း မြေနှင့်ရပိုင်ခွင့်များအပေါ်တွင်ဖြစ်စေ ယင်းတို့မှဖြစ်စေ ဓါတ်သတ္တုပင်ရင်း အခြေအမြစ်များ မြှုပ်နှံထားသည့်ရတနာများအပြင် မမျှော်လင့်ဘဲတွေ့ရှိရသည့် ရှေးဟောင်းပစ္စည်းများသည် အငှားချထားသူ၏ပစ္စည်းဖြစ်ရမည့်အပြင်၊ အငှားချထားသူသည် ဆိုခဲ့သည့်ပစ္စည်းများကို မည်သည့်အခါ၌မဆို သက်ဆိုင်ရာနိုင်ငံတော်အဖွဲ့အစည်းများသို့တင်ပြ၍ မည်သည့်အခါ၌မဆို တူးဖော်နိုင်ခွင့်ရှိရမည်။

၁၆။ ဘာသာစကား။ ။ဤအငှားစာချုပ်အရ (သို့မဟုတ်) ဤအငှားစာချုပ်နှင့်အညီ လဲလှယ်သည့် (သို့မဟုတ်) ချအပ်သည့် စာပေးစာယူများနှင့် နို့တစ်စာများကို မြန်မာဘာသာဖြင့် ပြုလုပ်ရမည်။

၁၇။ စာပေးစာယူအတွက်နေရပ်လိပ်စာ။ ။ဤအငှားစာချုပ်အရ (သို့မဟုတ်) ဤအငှားစာချုပ်နှင့်အညီ စာပေးစာယူနှင့် နို့တစ်စာအားလုံးကို ဤအငှားစာချုပ်၏ ပထမစာမျက်နှာတွင် ဖော်ပြထားသည့် နေရပ်လိပ်စာ၌ဖြစ်စေ လက်ခံရရှိမည့် စာချုပ်ချုပ်ဆိုသူက တစ်ဖက်စာချုပ် ချုပ်ဆိုသူအား အခါအားလျော်စွာ စာဖြင့် ရေးသားအကြောင်းကြားထားသည့် အခြားနေရပ်လိပ်စာ၌ဖြစ်စေ လက်ခံရရှိမည့် စာချုပ်ချုပ်ဆိုသူထံ ပေးပို့ရမည်။

၁၈။ လွှမ်းမိုးသည့်စာချုပ်။ ။အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့ (၉-၁၀-၂၀၁၃)ရက်နေ့က ချုပ်ဆိုခဲ့သော ငှားရမ်းခြင်းသဘောတူစာချုပ်သည် ပျက်ပြယ်ပြီး ဤအငှားစာချုပ်က လွှမ်းမိုးပါသည်။

ဤအငှားစာချုပ်ကို အထက်တွင်ဖော်ပြထားသည့် ၂၀၁၅ ခုနှစ်၊ လ( ) ရက်နေ့တွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ရန်ကုန်မြို့၌ စာချုပ်ကို လက်မှတ်ရေးထိုးချုပ်ဆိုကြပါသည်။

အငှားချထားခြင်းခံရသူ

အငှားချထားသူ
ရန်ကုန်တိုင်းဒေသကြီးငါးလုပ်ငန်းဦးစီးဌာန(ကိုယ်စား)

(ကျော်မင်း)
တိုင်းဒေသကြီးဦးစီးဌာနမှူး
ရန်ကုန်တိုင်းဒေသကြီးငါးလုပ်ငန်းဦးစီးဌာန

(ဒေါ်ယုယုဝင်း)
၁၂/လသန(နိုင်)၀၁၅၂၇၆
အမှတ်(၁၁၅)၊ဓမ္မစေတီလမ်း၊(၁၀)ရပ်ကွက်၊
ကမာရွတ်မြို့နယ်၊ရန်ကုန်မြို့။

## အသိသက်သေများ

| | | | |
|---|---|---|---|
| ၁။ | ဦးမင်းဆွေ | တိုင်းဒေသကြီးဦးစီးဌာနမှူး<br>ရန်ကုန်တိုင်းဒေသကြီးဆည်မြောင်းဦးစီးဌာန | ------------ |
| ၂။ | ဦးကိုကိုကြီး | တိုင်းဒေသကြီးဦးစီးဌာနမှူး<br><br>ရန်ကုန်တိုင်းဒေသကြီးစိုက်ပျိုးရေးဦးစီးဌာန | ------------ |
| ၃။ | ဦးသန်းမြင့် | တိုင်းဒေသကြီးဦးစီးဌာနမှူး<br>ရန်ကုန်တိုင်းဒေသကြီးမြေစာရင်းဦးစီးဌာန | ------------ |
| ၄။ | ဒေါ်သွေးသွေးချစ် | တိုင်းဒေသကြီးဦးစီးဌာနမှူး<br>ရန်ကုန်တိုင်းဒေသကြီးစီမံကိန်းရေးဆွဲရေးဦးစီးဌာန | ------------ |
| ၅။ | ဒေါက်တာမြင့်ဆွေ | တိုင်းဒေသကြီးဦးစီးဌာနမှူး<br>ရန်ကုန်တိုင်းဒေသကြီးမွေးမြူရေးနှင့်ကုသရေးဦးစီးဌာန | ------------ |
| ၆။ | ဦးကြည်တင် | ညွှန်ကြားရေးမှူး<br>ရန်ကုန်တိုင်းဒေသကြီးစည်ပင်သာယာရေးအဖွဲ့ | ------------ |
| ၇။ | ဦးအောင်သန်းမြင့် | ၁၂/ပဘတ(နိုင်)၀၀၀၇၀၃<br>အမှတ်(၁၁၅)၊ဓမ္မစေတီလမ်း၊(၁၀)ရပ်ကွက်၊ကမာရွတ်မြို့နယ်၊ရန်ကုန်မြို့။ | ------------ |
| ၈။ | ဦးမင်းနောင် | ဒုတိယတိုင်းဒေသကြီးဦးစီးဌာနမှူး<br>ရန်ကုန်တိုင်းဒေသကြီးငါးလုပ်ငန်းဦးစီးဌာန | ------------ |
| ၉။ | ဦးတင်ထွဋ် | တာဝန်ခံ၊ ဥပဒေဌာနစု<br>ငါးလုပ်ငန်းဦးစီးဌာန | ------------ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ် ၊ ၃ / ၆ - ၃ ( ၃၆ ) / စိုက်မွေး
ရက် စွဲ ၊ ၂၀၁၅ ခုနှစ် ဇူလိုင် လ ၂၉ ရက်

သို့

တိုင်းဒေသကြီးဦးစီးမှူး
ရန်ကုန်တိုင်းဒေသကြီးငါးလုပ်ငန်းဦးစီးဌာန

အကြောင်းအရာ ။ **ကန်တော်ကြီးရေချိုငါးဥယျာဉ် ငှားရမ်းလုပ်ကိုင်ခြင်းစာချုပ်အပေါ် ဥပဒေအကြံပြုချက်နှင့်အညီ စာချုပ်ပြင်ဆင်ချုပ်ဆိုရန်ကိစ္စ** ။

၁။ ရန်ကုန်တိုင်းဒေသကြီးငါးလုပ်ငန်းဦးစီးဌာနနှင့် မြန်မာအကွာရီယမ်ကုမ္ပဏီလီမိတက်တို့၏ ကန်တော်ကြီးရေချိုငါးဥယျာဉ်ကို ခေတ်မီငါးပြတိုက်အဖြစ် ပြောင်းလဲလုပ်ကိုင်ရန် (၉. ၁၀. ၂၀၁၃) ရက်နေ့က ချုပ်ဆိုခဲ့သော လုပ်ငန်းငှားရမ်းခြင်း စာချုပ်အပေါ် ယခင် ကနဦးသက်တမ်း (၁၀)နှစ်နေရာတွင် ကနဦးသက်တမ်း (၂၀)နှစ်အဖြစ် ပြောင်းလဲသက်မှတ်နိုင်ရေးအတွက် ဥပဒေသဘောထားပြန်ကြားပေးပါရန် ရန်ကုန်တိုင်းဒေသကြီးဥပဒေချုပ်ရုံးသို့ အကြောင်းကြားခဲ့ခြင်းနှင့်ပတ်သက်၍ ရန်ကုန်တိုင်းဒေသကြီးဥပဒေချုပ်ရုံးမှ အောက်ပါအတိုင်း အကြံပြုပြန်ကြားလာပါသည်-

(က) ရန်ကုန်တိုင်းဒေသကြီး ငါးလုပ်ငန်းဦးစီးဌာနနှင့် မြန်မာအကွာရီယမ်ကုမ္ပဏီလီမိတက်တို့သည် ကန်တော်ကြီးရေချိုငါးဥယျာဉ်ကို အဆင့်မြှင့်တင်ပြီး ခေတ်မီငါးပြတိုက်အဖြစ် ပြောင်းလဲလုပ်ကိုင်ရန် မြေ၊ အဆောက်အဦ၊ ရေသတ္တဝါများ၊ စက်ကိရိယာများနှင့် ပန်းပင်များကို ကနဦး (၁၀)နှစ်ငှားရမ်းသည့်စာချုပ်အား (၉. ၁၀. ၂၀၁၃)ရက်နေ့တွင် လက်မှတ်ရေးထိုးချုပ်ဆိုခဲ့ပြီးဖြစ်သော်လည်း တိုင်းဒေသကြီးဥပဒေချုပ်ရုံးနှင့် ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ခြင်းမရှိကြောင်း၊ စာချုပ်(မိတ္တူ)မှာ ပုံစံကျနမှုမရှိကြောင်း၊

(ခ) ငှားရမ်းခြင်းစာချုပ်၏ " ကနဦးငှားရမ်းကာလ(၁၀)နှစ်၊ ကနဦးသက်တမ်း ကုန်ဆုံးပြီးနောက် အငှားစာချုပ်ကို နှစ်ဦးနှစ်ဖက်သဘောတူညီချက်ဖြင့် (၅)နှစ်စီ နောက်ထပ် (၂)ကြိမ်သတ်မှတ်ပေးရန်"ဟု စည်းကမ်းချက်နေရာတွင် "ကနဦးငှားရမ်းကာလ (၂၀)နှစ်၊ ကနဦးသက်တမ်း ကုန်ဆုံးပြီးနောက် အငှားစာချုပ်ကို နှစ်ဦးနှစ်ဖက်သဘောတူညီချက်ဖြင့် (၁၀)နှစ်စီ နောက်ထပ် (၂)ကြိမ် သတ်မှတ်ပေးရန်"ဟု စည်းကမ်းချက်အား အစားထိုးပြင်ဆင်လိုကြောင်း တွေ့ရှိရကြောင်း၊

(ဂ) စာချုပ်(မိတ္တူ)အပိုဒ် ၃(ခ)တွင် "အငှားစာချုပ်၏ သက်တမ်းသည် ဤအငှားစာချုပ်ကို နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးသည့်နေ့ရက်မှ ကနဦးသက်တမ်း(၁၀)နှစ်("ကနဦးသက်တမ်း") ဖြစ်ရမည်။ ကနဦးသက်တမ်းကုန်ဆုံးပြီးနောက် ဤအငှားစာချုပ်ကို နှစ်ဦးနှစ်ဖက် သဘောတူညီချက်ဖြင့် (၅)နှစ်(ငါးနှစ်)စီ xxxxxxxxxxx စာချုပ်သက်တမ်းမကုန်ဆုံးမီ(၆)လ ကြိုတင်အကြောင်းကြားရမည်"ဟု ဖော်ပြချက်သည် ငှားရမ်းခြင်းစာချုပ်သက်တမ်း **ကုန်ဆုံးပြီးနောက် ထပ်မံငှားရမ်းခြင်းစာချုပ် ချုပ်ဆိုလိုပါက သက်တမ်းတိုး ဆောင်ရွက်နိုင်သည့် စည်းကမ်းချက်ဖြစ်ကြောင်း၊**

(ဃ) စာချုပ်(မိတ္တူ)အပိုဒ် ၅(တ)တွင် "အငှားချထားခြင်းခံရသူနှင့် အငှားချထားသူတို့သည် **နှစ်ဦးနှစ်ဖက် သဘောတူညီချက်ဖြင့် စာချုပ်ပါ စည်းကမ်းချက်များကို ပြင်ဆင်ပြောင်းလဲခြင်း** ပြုလုပ်နိုင်သည်" ဟု ဖော်ပြထားပါကြောင်း၊

(င) မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၄ တွင် "ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် xxxxxxxxxx စိုက်ပျိုးမွေးမြူရေးအမျိုးအစားနှင့် ရင်းနှီးမြှုပ်နှံမှုပမာဏအပေါ် မူတည်၍ ကနဦး(၅၀)နှစ်အထိ ခွင့်ပြုနိုင်သည်"ဟုလည်းကောင်း၊ ယင်းဥပဒေပုဒ်မ ၂၅ တွင် "ကော်မရှင်သည် ပုဒ်မ ၂၄ အရ ခွင့်ပြုထားသော သက်တမ်းကုန်ဆုံးပြီးနောက် xxxxxxxxxxx **တစ်ဆက်တည်း သက်တမ်းတိုးခွင့် (၁၀)နှစ် (၂)ကြိမ် တိုးမြှင့်ပေးနိုင်သည်"ဟု လည်းကောင်း ပြဋ္ဌာန်းထားသည်ကို** တွေ့ရှိရပါကြောင်း။

၂။ သို့ဖြစ်ပါ၍ ကန်တော်ကြီးရေချိုငါးဥယျာဉ် ငှားရမ်းလုပ်ကိုင်ခြင်းစာချုပ်(မူကြမ်း)၏ **အထက်ဖော်ပြပါ တွေ့ရှိချက်များအရ "ငှားရမ်းခြင်းသက်တမ်း စည်းကမ်းချက်များအား နှစ်ဦးနှစ်ဖက် သဘောတူညီချက်ဖြင့် ပြင်ဆင်ပြောင်းလဲခြင်း ပြုလုပ်နိုင်ကြောင်း" သုံးသပ် ဥပဒေအကြံပြုချက်နှင့်အညီ စာချုပ်အား ပြင်ဆင်ချုပ်ဆိုရန်နှင့်** ပြင်ဆင်ချုပ်ဆိုပြီးသည့် စာချုပ်(မူကြမ်း)အား ပြန်လည်တင်ပြရန် အကြောင်းကြားပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)

( ဆန်းထွန်းစိန်၊ ဒုတိယညွှန်ကြားရေးမှူး)

မိတ္တူကို

ရန်ကုန်တိုင်းဒေသကြီးစိုက်ပျိုးရေးနှင့်မွေးမြူရေးဝန်ကြီး

မြန်မာအက္ကာရီယမ်ကုမ္ပဏီလီမိတက်၊ ဗိုလ်ချုပ်ပန်းခြံဝန်း၊ နတ်မောက်လမ်း၊ ဗဟန်းမြို့နယ်

ရုံးလက်ခံ/မျှောစာတွဲ




# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဖွံ့ဖြိုးရေးဝန်ကြီးဌာန
# ရန်ကုန်တိုင်းဒေသကြီးငါးလုပ်ငန်းဦးစီးဌာန
# နှင့်
# မြန်မာအကွာရီယမ်ကုမ္ပဏီလီမိတက်
# တို့၏
# ရန်ကုန်မြို့ ကန်တော်ကြီး ရေချိုငါးဥယျာဉ်ကို ခေတ်မီငါးပြတိုက်အဖြစ် ပြောင်းလဲလုပ်ကိုင်ရန် ချုပ်ဆိုခဲ့သော ငှားရမ်းခြင်းသဘောတူစာချုပ်အပေါ် ပထမအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်

ဤပြင်ဆင်ချက်သဘောတူစာချုပ် (နောင်တွင် "ပြင်ဆင်ချက်သဘောတူစာချုပ်"ဟု ခေါ်တွင်မည်)ကို ရန်ကုန်မြို့တွင် ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ( ၇ )ရက်နေ့၌ ဦးကျော်မင်း၊ တိုင်းဒေသကြီးဦးစီးဌာနမှူး ကိုယ်စားပြုသော "ရန်ကုန်တိုင်းဒေသကြီးငါးလုပ်ငန်းဦးစီးဌာန "မွေးမြူရေး ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန (နောင်တွင် "အငှားချထားသူ"ဟု ခေါ်တွင်စေပြီး ယင်းဖော်ပြချက်တွင် ၎င်းအားဆက်ခံသူများ ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည် )က တစ်ဖက်

နှင့်

ရန်ကုန်တိုင်းဒေသကြီး ကမာရွတ်မြို့နယ်၊ (၁၀)ရပ်ကွက်၊ ဓမ္မစေတီလမ်း အမှတ်-၁၁၅ နေ ဒေါ်ယုယုဝင်း ၁၂/လသန(နိုင်) ၀၁၅၂၈၆ ( Managing Director ) ကိုယ်စားပြုသော "မြန်မာအကွာရီယမ်ကုမ္ပဏီလီမိတက်" (နောင်တွင်"အငှားချထားခြင်းခံရသူ"ဟုခေါ်တွင်စေပြီး ယင်းစကားရပ်တွင် ၎င်းတို့အားဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များနှင့် ဥပဒေအရလွှဲအပ်ခြင်းခံရသူများပါဝင်သည်)က အခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက်များကိုသတ်မှတ်၍ နှစ်ဦး သဘောတူစာချုပ်ကို ချုပ်ဆိုကြပါသည်။

(က) ရန်ကုန်တိုင်းဒေသကြီးငါးလုပ်ငန်းဦးစီးဌာနနှင့် ဒေါ်ယုယုဝင်းတို့သည် ကန်တော်ကြီးရေချိုငါးဥယျာဉ်အား ငှားရမ်းခြင်းသဘောတူစာချုပ်ကို (၉. ၁၀. ၂၀၁၃) ရက်နေ့တွင် နှစ်ဦးသဘောတူစာချုပ် (နောင်တွင် "မူလစာချုပ်"ဟု ခေါ်ဆိုမည်ဖြစ်သည်) ချုပ်ဆို၍ ကန်တော်ကြီးရေချိုငါးဥယျာဉ်အား ငှားရမ်းခြင်းလုပ်ငန်းကို ဆောင်ရွက်ခဲ့ပါသည်။

(ခ ) ဤငှားရမ်းခြင်းဆိုင်ရာ နောက်ဆက်တွဲသဘောတူစာချုပ်ကို အငှားချထားသူနှင့် အငှားချထားခြင်း ခံရသူတို့ (၉. ၁၀. ၂၀၁၃)ရက်နေ့တွင် ချုပ်ဆိုခဲ့သော ငှားရမ်းခြင်းသဘောတူစာချုပ် အပိုဒ် ၅(တ) အရ နှစ်ဦးနှစ်ဖက် သဘောတူညီချက်ဖြင့် စာချုပ်ပါစည်းကမ်းချက်များကို ပြင်ဆင်ပြောင်းလဲ ချုပ်ဆိုကြခြင်းဖြစ်ပါ သည်။

(ဂ) ဤငှားရမ်းခြင်းဆိုင်ရာ နောက်ဆက်တွဲသဘောတူစာချုပ်သည် အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့ (၉. ၁၀. ၂၀၁၃)ရက်နေ့တွင် ချုပ်ဆိုခဲ့သော ငှားရမ်းခြင်း သဘောတူစာချုပ်၏ နောက်ဆက်တွဲ သဘောတူစာချုပ်ဖြစ်သည်။

၁။ မူလစာချုပ်၏ အငှားချထားခြင်းနှင့် အငှားစာချုပ်၏သက်တမ်းခေါင်းစဉ်အောက်ရှိ အပိုဒ် ၃(က)နှင့်(ခ)အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်။

၃ (က) ဤအငှားစာချုပ်၌ အပိုဒ်(၂ )တွင်ပါရှိသော ပိုဒ်ခွဲ ၄(က)နှင့် ပိုဒ်ခွဲ ၄(ခ)တို့ကို အထောက် အထားပြု၍ အငှားချထားသူက မြေနှင့်ရပိုင်ခွင့်များကို၊ အငှားချထားခြင်းခံရသူအား အငှားချထားပါသည်။ အငှားချထားသူသည် မြေနှင့်ရပိုင်ခွင့်များပေါ်ရှိ ကျူးကျော်သူများ၊ တရားမဝင်နေထိုင်သူများ၊ အိမ်ငှားများ၊ ထပ်ဆင့်အိမ်ငှားများ၊ ခွင့်ပြုမိန့်ဖြင့်နေထိုင်သူများကိုဖယ်ရှားပေးခြင်း၊ နေရာချ ထားပေးခြင်းတို့ကို ဆောင်ရွက်ပေးရမည်။ အငှားချထားသူသည် မြေနှင့်ရပိုင်ခွင့်များကို (၉၁၀၂၀၁၃) ရက်နေ့တွင် အငှားချထားခြင်း ခံရသူအား လက်ရှိထားပိုင်ခွင့်ကို လက်ရောက်ပေးအပ်ရာ အငှားချထားခြင်းခံရသူမှ ကောင်းမွန်စွာ လက်ခံရရှိပါကြောင်း ဝန်ခံကတိပြုပါသည်။

(ခ ) အငှားစာချုပ်၏သက်တမ်းသည် (၉. ၁၀. ၂၀၁၃) ရက်နေ့မှ ကနဦးသက်တမ်း (၂၀)နှစ် ('ကနဦးသက်တမ်း') ဖြစ်ရမည်။ ကနဦး သက်တမ်းကုန်ဆုံးပြီးနောက် ဤအငှားစာချုပ်ကို နှစ်ဦးနှစ်ဖက်သဘောတူညီချက်ဖြင့် (၁၀)နှစ် (တစ်ဆယ်နှစ်)စီ၊ နောက်ထပ် (၂)ကြိမ်အထိ သက်တမ်းတိုးမြှင့်နိုင်သည်။ အငှားချထားခြင်းခံရသူသည် သက်တမ်းတိုးဆောင်ရွက်လိုပါက အငှားချထားသူသို့ ကျရောက်ဆဲ စာချုပ်သက်တမ်း မကုန်ဆုံးမီ(၆)လ ကြိုတင်အကြောင်းကြားရမည်။

၂။ မူလစာချုပ်၏ ငွေပေးချေရန်စည်းကမ်းများ ခေါင်းစဉ်အောက်ရှိ အပိုဒ် ၄(က) နှင့် (ခ) အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

၄ (က) 'အငှားချထားခြင်းခံရသူ'သည် အပိုဒ် ၄(ခ)ပါငှားရမ်းခများကို (၁)နှစ်လျှင် တစ်ကြိမ်အပြေအကြေ ပေးသွင်းရမည်ဖြစ်ပြီး နှစ်စဉ် ဇက်တင်ဘာလ (၃၀)ရက်နေ့တွင် နောက်ဆုံးထားပေးသွင်းရမည်။ အငှားချထားခြင်းခံရသူသည် စာချုပ်ချုပ်ဆိုပြီးနောက် လုပ်ငန်းဆက်လက် လုပ်ကိုင်လိုခြင်း မရှိပါက ကျရောက်ဆဲစာချုပ်သက်တမ်းကာလအတွက် ငှားရမ်းခငွေများကို အပြေအကြေပေးသွင်းရမည်။ အငှားချထားခြင်းခံရသူသည် ကနဦးသက်တမ်း(၂၀)နှစ် လုပ်ကိုင်ပြီးစီး၍ သက်တမ်းတိုး ပထမ(၁၀)နှစ် ဆက်လက် လုပ်ကိုင်လိုလျှင်သော်လည်းကောင်း၊ သက်တမ်းတိုး ဒုတိယ(၁၀)နှစ် ဆက်လက် လုပ်ကိုင်လိုလျှင်သော်လည်းကောင်း၊ နှစ်ဦးနှစ်ဖက် ညှိနှိုင်းသတ်မှတ်သည့် နှစ်စဉ်ငှားရမ်းခငွေများကို နှစ်စဉ်အပြေအကြေ ပေးသွင်းရမည်။ နှစ်အလိုက် ငှားရမ်းခနှုန်းထားများ ကို (၅)နှစ်လျှင် တစ်ကြိမ် နှစ်ဦးနှစ်ဖက် ညှိနှိုင်းသတ်မှတ်ရမည်။ ထိုသို့ညှိနှိုင်းသတ်မှတ်ရာတွင် ပြီးခဲ့သော (၅)နှစ်ကာလအတွက် နှစ်စဉ်ငှားရမ်းခနှုန်းထား၏ (၂၀%)ထက် မပိုစေရန် သဘောတူကြပါသည်။

(ခ ) အငှားချထားခြင်းခံရသူသည် ငှားရမ်းခကို အောက်ဖော်ပြပါနှုန်းအတိုင်း ပေးချေရမည်။

(၁) ကနဦးသက်တမ်း(၂၀)နှစ်အတွင်း ၂၀၁၃–၂၀၁၄ ခုနှစ်နှင့် ၂၀၁၄–၂၀၁၅ ခုနှစ်များအတွက် တစ်နှစ်လျှင် ကျပ်သိန်း(၁၂၀၀)နှုန်း (ကျပ်သိန်း တစ်ထောင့်နှစ်ရာတိတိ)ကို ငှားရမ်းခအဖြစ် နှစ်စဉ်ပေးချေရမည်။

(၂) ကနဦးသက်တမ်း (၂၀)နှစ်အတွင်း ၂၀၁၅–၂၀၁၆ ခုနှစ်မှ ၂၀၁၇–၂၀၁၈ ခုနှစ်များအတွက် တစ်နှစ်လျှင် ကျပ်သိန်း(၁၂၆၀)နှုန်း (ကျပ်သိန်းတစ်ထောင့်နှစ်ရာခြောက်ဆယ်တိတိ) ကို ငှားရမ်းခအဖြစ် နှစ်စဉ်ပေးချေရမည်။

(၃) ကနဦးသက်တမ်း(၂၀)နှစ်အတွင်း ၂၀၁၈–၂၀၁၉ ခုနှစ်မှ ကျန်သောနှစ်များ အတွက် (၅)နှစ်လျှင် တစ်ကြိမ် နှစ်ဦးနှစ်ဖက် ညှိနှိုင်းသတ်မှတ်သည့် နှစ်အလိုက် ငှားရမ်းခနှုန်းထားများအတိုင်း နှစ်စဉ်ပေးချေရမည်။

(၄) ပထမအကြိမ် သက်တမ်းတိုး(၁၀)နှစ်အတွက် (၅)နှစ်လျှင်တစ်ကြိမ် နှစ်ဦးနှစ်ဖက် ညှိနှိုင်းသတ်မှတ်သည့် နှစ်အလိုက် ငှားရမ်းခနှုန်းထားများအတိုင်း နှစ်စဉ်ပေးချေရမည်။

(၅) ဒုတိယအကြိမ် သက်တမ်းတိုး(၁၀)နှစ်အတွက် (၅)နှစ်လျှင်တစ်ကြိမ် နှစ်ဦးနှစ်ဖက် ညှိနှိုင်းသတ်မှတ်သည့် နှစ်အလိုက် ငှားရမ်းခနှုန်းထားများအတိုင်း နှစ်စဉ်ပေးချေရမည်။

၃။ မူလစာချုပ်မှ အငှားချထားခြင်းခံရသူ၏ တာဝန်များ ခေါင်းစဉ်အောက်ရှိ အပိုဒ် ၅ (ဃ) နှင့် (ခ) အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်။

၅(ဃ) စာချုပ်ပါစည်းကမ်းဖောက်ဖျက်၍လည်းကောင်း၊ စာချုပ်ပျက်ပြယ်ရပ်စဲလျှင်သော် လည်းကောင်း၊ စာချုပ်သက်တမ်းပြည့်၍ ငှားရမ်းခွင့် ကုန်ဆုံးလျှင်သော် လည်းကောင်း၊ ငါးလုပ်ငန်းဦးစီးဌာနမှ လွှဲပြောင်းပေးအပ်ထားသော ပစ္စည်းများ၊ အဆောက်အဦများ (သို့မဟုတ်) ပြင်ဆင်ဆောက်လုပ်ထားသော အဆောက်အဦများအပါအဝင် တိုးချဲ့ခြင်း၊ လျော့ချခြင်း ပြုလုပ်ထားသော သစ်ပင်များ၊ ငါးမျိုး စိတ်များကို ပြန်လည်လွှဲပြောင်း ပေးအပ်ရမည်။ ၎င်းအပြင် အငှားချထားခြင်းခံရသူမှ တိုးချဲ့ဆောက်လုပ်ထားသော အဆောက်အဦများ၊ မရွှေ့မပြောင်းနိုင်သော ပစ္စည်းများကို အငှားချထားခြင်းခံရသူမှ အငှားချထားသူ ထံသို့ ပြန်လည်လွှဲပြောင်း ပေးအပ်ရမည်။

၅(ခ) စာချုပ်ပါလုပ်ငန်းများ ဆောင်ရွက်ရာတွင် နည်းပညာအရသော်လည်းကောင်း၊ စီမံခန့်ခွဲမှုအရသော်လည်းကောင်း၊ အခြားကုမ္ပဏီတစ်ခု၏ အကူအညီဖြင့် ရယူဆောင်ရွက်နိုင်သည်။

၄။ မူလစာချုပ်၏ အငှားချထားခြင်းခံရသူ၏ တာဝန်များခေါင်းစဉ်အောက်တွင် ၅(ဓ) အဖြစ်အောက်ပါအတိုင်း ထပ်မံဖြည့်စွက်ရမည်–

မြေသို့ပြန်လည်ဝင်ရောက်ပိုင်ခွင့်

''အငှားချထားခြင်းခံရသူ''သည် စာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် (သို့) လိုက်နာရန်ပျက်ကွက်ခြင်းကြောင့် ''အငှားချထားသူ''က ယင်းကဲ့သို့ ပျက်ကွက်မှုများကို ပြုပြင်ရန် (သို့) လိုက်နာရန်''အငှားချထားခြင်းခံရသူ''သို့ အကြောင်းကြားစာ ပေးပို့ပြီးနောက် အကြောင်းကြားစာပါ ကာလအတွင်း လိုက်နာမှုမရှိပါက ''အငှားချထားသူ''သည် အငှားချထားသည့် ငါးလုပ်ငန်းဦးစီးဌာနမှ လွှဲပြောင်းပေးအပ်ထားသော မြေနှင့်ပစ္စည်းများ၊ အဆောက်အဦများအပါအဝင် အငှားချထားခြင်းခံရသူမှ တိုးချဲ့ရင်းနှီးမြှုပ်နှံထားသည့် ပြင်ဆင်ဆောက်လုပ်ထားသော အဆောက်အဦများ၊ တိုးချဲ့ခြင်း၊ လျော့ချခြင်း ပြုလုပ်ထားသော သစ်ပင်များ၊ ငါးမျိုးစိတ်များနှင့်တကွ မရွှေ့မပြောင်းနိုင်သောပစ္စည်းများ အားလုံးအပါအဝင် အငှားချထားသည့်မြေကို ပြန်လည်ဝင်ရောက် လက်ဝယ်ရယူခွင့်ရှိသည်။ သို့ရာတွင် ယင်းသို့ ဝင်ရောက်၍ လက်ရောက် ရယူခြင်း သည် ''အငှားချထားသူ''က ''အငှားချထားခြင်းခံရသူ''ထံမှ ရရန်ရှိသောငှားရမ်းခ (သို့) ပျက်စီးဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုခွင့်ကို ထိခိုက်ခြင်း မရှိစေရ။

၅။ မူလစာချုပ်၏ မြေသို့ပြန်လည်ဝင်ရောက်နိုင်ခွင့် စာပိုဒ်အားပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုး ပြင်ဆင်ရမည် –

ဂ။ မြေသို့ပြန်လည်ဝင်ရောက်နိုင်ခွင့် ။ ။ အငှားချထားခြင်းခံရသူက ဤအငှားစာချုပ်ပါ စည်းကမ်းများကိုဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန် ပျက်ကွက်လျှင်လည်းကောင်း၊ ထိုသို့ ပျက်ကွက်ကြောင်း အငှားချထားသူက ချအပ်သောနို့တစ်စာပါ ကာလများအတွင်း မဆောင်ရွက်မှု (သို့မဟုတ်) မလိုက်နာမှုကို ပြင်ဆင်ပေးရန်ပျက်ကွက်လျှင်လည်းကောင်း၊ စာချုပ်ပျက်ပြယ် ရပ်စဲလျှင်သော်လည်းကောင်း၊ အငှားချထားသူတွင်၊ အငှားစာချုပ်နှင့်သက်ဆိုင်အကျိုးဝင်သော ပစ္စည်း တစ်ရပ်လုံးပေါ်တွင် ငြိမ်းချမ်းအေးဆေးစွာ ပြန်လည်ဝင်ရောက်၍ လက်ရှိထားပိုင်ခွင့်ရှိရမည်။ ထိုအခါ ဤအငှားစာချုပ်သည် ရပ်စဲ၍ဆုံးခန်းတိုင်ရောက်ရမည်ဟူ၍ နှစ်ဦးနှစ်ဖက် သဘော တူကြပါသည်။

၆။ မူလစာချုပ်၏ စာချုပ်ရပ်စဲခြင်း စာပိုဒ်အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည် –
စာချုပ်ရပ်စဲခြင်း

၉(က) အောက်ဖော်ပြပါအခြေအနေတစ်ရပ်ရပ် ဖြစ်ပွားပေါ်ပေါက်လာပါက ဤအငှားစာချုပ်သည် ပျက်ပြယ်ရပ်စဲသည်။

(၁) အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့ နှစ်ဦးနှစ်ဖက်စာချုပ်ရပ်စဲရန် သဘောတူညီ ခြင်း။

(၂) စာချုပ်ဝင် တစ်ဖက်ဖက်က စာချုပ်ပါဆောင်ရွက်ချက် သို့တည်းမဟုတ် လိုက်နာရန်တာဝန် များပျက်ကွက်သဖြင့် ပြင်ဆင်ရန် အကြောင်းကြားခဲ့ သော်လည်း ရက်ပေါင်း(၆၀) အတွင်း ပြင်ဆင်မှုမရှိခြင်း။




(၃) ကြိုတင်မမျှော်မှန်းနိုင်သော မလွန်ဆန်နိုင်သောဖြစ်ရပ်များ ပေါ်ပေါက်လာခြင်း။

(၄) စာချုပ် သတ်မှတ်သက်တမ်း ကုန်ဆုံးခြင်း။

(ခ ) ဤစာချုပ်ချုပ်ဆိုသူများ၏ လုပ်ငန်းရပ်စဲလိုကြောင်း စာဖြင့်ရေးသား တင်ပြချက်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပြီးနောက်မှသာ အကျိုးသက်ရောက်မှုရှိစေရမည်။

၇။ မူလစာချုပ်တွင် မပါဝင်သော ကင်းလွတ်ခွင့်သက်သာခွင့်များ ခေါင်းစဉ်ကို အပိုဒ် ၁၂ အဖြစ် အောက်ပါစာပိုဒ်ဖြင့် ထပ်မံဖြည့်စွက်ရမည် –

အငှားချထားခြင်းခံရသူသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေတွင် ပြဋ္ဌာန်းထားသော အခွန်ကင်းလွတ်ခွင့်များ၊ အကောက်ခွန်ကင်းလွတ်ခွင့်များနှင့် အခြားသက်သာခွင့်များကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ခံစားခွင့်ရှိစေရမည်။

၈။ မူလစာချုပ်၏အပိုဒ် ၁၂ မှ ၁၆ အထိအား အပိုဒ် ၁၃ မှ ၁၇ အထိအဖြစ် အမှတ်စဉ် ပြောင်းလဲပြင်ဆင်ရမည်။

၉။ ဤပြင်ဆင်ချက်စာချုပ်သည် စာချုပ်လက်မှတ်ရေးထိုးသည့် ( ၇. ၁၂. ၂၀၁၅ ) ရက်နေ့မှ စတင်၍ အကျိုးသက်ရောက်မှုရှိစေရမည်။

၁၀။ ဤပြင်ဆင်ချက်စာချုပ်သည် မူလစာချုပ်၏ အစိတ်အပိုင်းတစ်ရပ် ဖြစ်စေရမည်။

၁၁။ ဤပြင်ဆင်ချက်စာချုပ်ပါ စည်းကမ်းချက်များမှအပ မူလစာချုပ်ရှိ ကျန်စည်းကမ်းချက် များမှာ ပြောင်းလဲမှုမရှိဘဲ ဆက်လက်၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

၁၂။ ဤငှားရမ်းခြင်းဆိုင်ရာ နောက်ဆက်တွဲ သဘောတူစာချုပ်ကို အထက်တွင် ဖော်ပြထားသည့် ခုနှစ်၊ လ၊ ရက်နေ့တွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ရန်ကုန်မြို့၌ စာချုပ်ကို လက်မှတ်ရေးထိုး ချုပ်ဆိုကြပါသည်။

| အငှားချထားသူ | အငှားချထားခြင်းခံရသူ |
|---|---|
| ရန်ကုန်တိုင်းဒေသကြီးငါးလုပ်ငန်းဦးစီးဌာန(ကိုယ်စား) | မြန်မာအကွာရီယမ်ကုမ္ပဏီလီမိတက်(ကိုယ်စား) |
| (ကျော်မင်း) | (ဒေါ်ယုယုဝင်း) |
| တိုင်းဒေသကြီးဦးစီးဌာနမှူး | Managing Director |
| ရန်ကုန်တိုင်းဒေသကြီးငါးလုပ်ငန်းဦးစီးဌာန | ၁၂/လသန(နိုင်) ၀၁၅၂၇၆ |
| | အမှတ်(၁၁၅)၊ ဓမ္မစေတီလမ်း၊ ၁၀–ရပ်ကွက်၊ |
| | ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
REPUBLIC OF THE UNION OF MYANMAR
အခွန်တံဆိပ်ခေါင်း
REVENUE STAMP
၂၀၀ကျပ် ငွေနှစ်ရာကျပ် K 200

အသိသက်သေများ

| | | | |
|---|---|---|---|
| ၁။ | ဦးမင်းဆွေ | တိုင်းဒေသကြီးဦးစီးဌာနမှူး | |
| | | ရန်ကုန်တိုင်းဒေသကြီးဆည်မြောင်းဦးစီးဌာန | |
| ၂။ | ဦးကိုကိုကြီး | တိုင်းဒေသကြီးဦးစီးဌာနမှူး | |
| | | ရန်ကုန်တိုင်းဒေသကြီးစိုက်ပျိုးရေးဦးစီးဌာန | |
| ၃။ | ဦးသန်းမြင့် | တိုင်းဒေသကြီးဦးစီးဌာနမှူး | |
| | | ရန်ကုန်တိုင်းဒေသကြီးမြေစာရင်းဦးစီးဌာန | |
| ၄။ | ဒေါ်သွေးသွေးချစ် | တိုင်းဒေသကြီးဦးစီးဌာနမှူး | |
| | | ရန်ကုန်တိုင်းဒေသကြီးစီမံကိန်းရေးဆွဲရေးဦးစီးဌာန | |
| ၅။ | ဒေါက်တာမြင့်ဆွေ | တိုင်းဒေသကြီးဦးစီးဌာနမှူး | |
| | | ရန်ကုန်တိုင်းဒေသကြီးမွေးမြူရေးနှင့်ကုသရေးဦးစီးဌာန | |
| ၆။ | ဦးကြည်တင် | ညွှန်ကြားရေးမှူး | |
| | | ရန်ကုန်တိုင်းဒေသကြီးစည်ပင်သာယာရေးအဖွဲ့ | |
| ၇။ | ဦးအောင်သန်းမြင့် | ၁၂/ပဘတ (နိုင်) ၀၀၀၇၀၃ | |
| | | အမှတ်(၁၁၅)၊ ဓမ္မစေတီလမ်း၊ ၁၀-ရပ်ကွက်၊ | |
| | | ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။ | |
| ၈။ | ဦးမင်းနောင် | ဒုတိယညွှန်ကြားရေးမှူး | |
| | | ရန်ကုန်တိုင်းဒေသကြီးငါးလုပ်ငန်းဦးစီးဌာန | |
| ၉။ | ဦးတင်ထွဋ် | ဒုတိယညွှန်ကြားရေးမှူး | |
| | | ဥပဒေရေးရာဌာနစု၊ ငါးလုပ်ငန်းဦးစီးဌာန | |

# ငှားရမ်းခြင်းသဘောတူစာချုပ်

၁။ ဤစာချုပ်ကို ၂၀၁၃ ခုနှစ်၊ အောက်တိုဘာလ(၉)ရက်နေ့တွင် ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အနောက်ကြို့ကုန်း၊ ဘုရင့်နောင်လမ်းမကြီးတွင် တည်ရှိသည့် တိုင်းဒေသကြီးငါးလုပ်ငန်းဦးစီးဌာန(နောင်တွင် အငှားချထားသူဟု ခေါ်ဆိုရမည်ဖြစ်ပြီး ယင်းစကားရပ်တွင် အဆိုပါလုပ်ငန်းဆက်ခံသူများ၊ ဥပဒေအရ ခွင့်ပြုထားသည့် လွှဲအပ်ခြင်းခံရသူများကိုယ်စားလှယ်များပါဝင်သည်ဟု မှတ်ယူရမည်။) ကိုယ်စားတိုင်းဒေသကြီး ဦးစီးဌာနမှူး ဦးလှထွန်းက တစ်ဖက်နှင့်အခြားတစ်ဖက်တွင် ရန်ကုန်တိုင်းဒေသကြီး၊ ကမာရွတ်မြို့နယ်၊ (၁၀)ရပ်ကွက်၊ ဓမ္မစေတီလမ်း၊ အမှတ်(၁၃၅)တွင် နေထိုင်သော ဒေါ်ယုယုဝင်း ၁၂/လသန(နိုင်) ၀၁၅၂၇၆ (နောင်တွင် အငှားချထားခြင်းခံရသူဟုခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်တွင် ဒေါ်ယုယုဝင်း၏ တရားဝင် အခွင့်အရေးဆက်ခံသူများ၊ ဥပဒေအရ ခွင့်ပြုထားသည့် လွှဲအပ်ခြင်းခံရသူများ၊ တရားဝင်ကိုယ်စားလှယ်များ ပါဝင်သည်ဟု မှတ်ယူရမည်။)တို့သည် နှစ်ဦးနှစ်ဖက်သဘောတူလက်မှတ်ရေးထိုးချုပ်ဆိုကြပါသည်။ ( နောင်တွင် နှစ်ဖက်ပူးတွဲလျှက်ကို **'စာချုပ် ချုပ်ဆိုသူ'** ဟူ၍ လည်းကောင်းရည်ညွှန်းမည်။ )

(က) **'အငှားချထားခြင်းခံရသူ'**သည် (အောက်တွင်ဖော်ပြထားသည့်) မြေနှင့် ရပိုင်ခွင့်များကို အသုံးပြု၍ ငွေကြေးပမာဏ အမေရိကန်ဒေါ်လာ(၁၅)သန်း ရင်းနှီးမြှုပ်နှံလျှက် ကန်တော်ကြီးရေချို ငါး ဥယျာဉ်အား ငါးလုပ်ငန်းဆိုင်ရာ ဗဟုသုတများရရှိရန်နှင့် အများပြည်သူများစိတ်ဝင်စားစွာလေ့လာ အပန်းဖြေနိုင်ရန်အတွက် အဆင့်မြင့်တင် ပြုပြင်ခြင်းလုပ်ငန်းများကို ဆောင်ရွက်ရန်နှင့် ကန်တော်ကြီးရေချိုငါးဥယျာဉ်အား ငှားရမ်းလုပ်ကိုင်ရန် ဆန္ဒရှိသည်ကတစ်ကြောင်း၊

(ခ) **'အငှားချထားသူ'**ကလည်း ကန်တော်ကြီးရေချိုငါးဥယျာဉ် ငှားရမ်းလုပ်ပိုင်ခွင့် နှင့် ရပိုင်ခွင့်များတွင် မိမိလုံးလုံးလျားလျား တရားဝင်အကျိုးခံစားခွင့်ရှိကြောင်းကိုလည်းကောင်း၊ ယင်းမြေငှားရမ်းခွင့်နှင့် ရပိုင်ခွင့်များကိုနောင်တွင်ပါရှိသည့်စည်းကမ်းချက်များဖြင့် အငှားချထားခြင်းခံရသူအား အငှားချထားရန်လိုလားကြောင်းကိုလည်းကောင်း အခိုင်အမာပြောဆို၍ အာမခံသည်ကတစ်ကြောင်း၊

(ဂ) **'အငှားချထားသူ'** နှင့် **'အငှားချထားခြင်းခံရသူ'** တို့သည် ဤအငှားစာချုပ်ကို ချုပ်ဆိုရန် သဘောတူကြသည်ကတစ်ကြောင်း။

၂။ ထိုအကြောင်းများကြောင့် အောက်တွင်ပါရှိသည့် စာချုပ်ချုပ်ဆိုသူများ၏တာဝန်ခံချက်များကို အထောက်အထားပြု၍ ဤစာချုပ်ကို ချုပ်ဆိုသူများသည် အောက်ပါအတိုင်းသဘောတူကြပါသည်-

(က) **အဓိပ္ပါယ်ဖော်ပြချက်များ** ဤအငှားစာချုပ်ပါကိစ္စအလို့ငှာ အောက်ဖော်ပြပါစကားလုံးများနှင့် စကားရပ်များသည် ဖော်ပြပါအတိုင်းအဓိပ္ပါယ်သက်ဝင်ရမည်-

(၁) **ရပိုင်ခွင့်၊** ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ ကန်တော်ကြီးရေချိုငါးဥယျာဉ် ခန့်မှန်း ဧရိယာ(၅.၀၀)ဧကကျယ်ဝန်းသော မြေပေါ်တွင်တည်ရှိသည့် ရေချိုငါးဥယျာဉ်ဆိုင်ရာ ရုံး/ ဧည့်ခန်း/ အဆောက်အအုံ(၁)ခု၊ နားနေဆောင်(၁)ခု၊ ပြခန်းအဆောက်အအုံ(၁)ခု၊ အငှားချ ဆိုင်ခန်း(၁၀)ခန်း၊ ရေတံခွန် (၁)ခု၊ စမ်းချောင်း(၁)ခု၊ လိုဏ်ဂူ(၁)ခု၊ တံတား(၃)စင်း၊ တိရိစ္ဆာန် ရုပ်ထု(၄)မျိုး၊ ငါးပြကန်(၂၃)ခု၊ ငါးအလှပြမှန် ကန်(၂၄)ခု၊ မိကျောင်း၊ ရေပုတ်သင်၊ ရေလိပ်၊ ကုန်းလိပ်၊ အလှမွေးငါးကောင်ရေ(၁၀၈၃၂)ကောင်၊ လုပ်ငန်းသုံးစက်ကိရိယာများ၊ ပန်းအလှ ပင်များကို ဆိုလိုသည်၊

(၂) **ဥပဒေ၊** မြန်မာနိုင်ငံလက်ရှိ ကျင့်သုံးနေသော တည်ဆဲအက်ဥပဒေများ၊ နည်းဥပဒေများ၊ ဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များ၊ လုပ်ထုံးလုပ်နည်းများ၊ စည်းမျဉ်းစည်းကမ်း များကိုဆိုသည်၊

(၃) **ငှားရမ်းခ၊** အငှားစာချုပ်စာပိုဒ်(၄) ]ခ)တွင် ထိုစကားရပ်အတွက် ပေးထားသည့် အဓိပ္ပါယ် သက်ဝင်သည်၊

၃၊ **အငှားချထားခြင်းနှင့်အငှားစာချုပ်၏သက်တမ်း**

(က) ဤအငှားစာချုပ်၌ သီးသန့်ပါရှိသော ငှားရမ်းခနှင့်ပဋိညာဉ်များကို အထောက်အထားပြု၍ အငှားချထားသူက မြေ နှင့် ရပိုင်ခွင့်များကို အငှားချထားခြင်းခံရသူအား အငှားချထားပါသည်၊ အငှားချထားသူသည် မြေ နှင့် ရပိုင်ခွင့်များပေါ်ရှိ ကျူးကျော်သူများ၊ တရားမဝင်နေထိုင်သူများ၊ အိမ်ငှားများ၊ ထပ်ဆင့်အိမ်ငှားများ၊ ခွင့်ပြုမိန့်ဖြင့် နေထိုင်သူများကို ဖယ်ရှားပေးခြင်း၊ နေရာ ချထားပေးခြင်းတို့ကို ဆောင်ရွက်ပေးရမည်၊ အငှားချထားသူသည် ဤအငှားစာချုပ်ကို နှစ်ဦး နှစ်ဖက်ချုပ်ဆိုသည့်နေ့ရက်မှ(၇)ရက်အတွင်း မြေနှင့် ရပိုင်ခွင့်များကို အငှားထားခြင်းခံရသူအား လက်ရှိထားပိုင်ခွင့်ကို လက်ရောက်ပေးအပ်ရမည်၊

(ခ) အငှားစာချုပ်၏သက်တမ်းသည် ဤအငှားစာချုပ်ကို နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုးသည့်နေ့ ရက်မှ ကနဦးသက်တမ်း(၁၀)နှစ် (**'ကနဦးသက်တမ်း'**)ဖြစ်ရမည်၊ ကနဦးသက်တမ်းကုန်ဆုံးပြီး နောက်ဤအငှားစာချုပ်ကို နှစ်ဦးနှစ်ဖက်သဘောတူညီချက်ဖြင့် (၅)နှစ် (ငါးနှစ်)စီ၊ နောက်ထပ် (၂)ကြိမ်အထိ သက်တမ်းတိုးမြှင့်နိုင်သည်၊ အငှားထားခြင်းခံရသူသည် သက်တမ်းတိုးဆောင် ရွက်လိုပါက အငှားချထားသူသို့ ကျရောက်ဆဲ စာချုပ်သက်တမ်းမကုန်ဆုံးမီ(၆)လ ကြိုတင် အကြောင်းကြားရမည်၊

၄။ ငွေပေးချေရန် စည်းကမ်းများ

(က) 'အငှားချထားခြင်းခံရသူ'အပိုဒ် ၄ (ခ)ပါ ငှားရမ်းခများကို (၁)နှစ်လျှင် တစ်ကြိမ်အပြေအကြေ ပေးသွင်းရမည်ဖြစ်ပြီး နှစ်စဉ် စက်တင်ဘာလ(၃၀)ရက်နေ့တွင် နောက်ဆုံးထားပေးသွင်းရမည်။ အငှားချထားခြင်းခံရသူသည် စာချုပ်ချုပ်ဆိုပြီးနောက် လုပ်ငန်းဆက်လက်လုပ်ကိုင်လိုခြင်း မရှိပါက ကျရောက်ဆဲစာချုပ်သက်တမ်းကာလအတွက် ငှားရမ်းခငွေများကို အပြေအကြေပေးသွင်းရမည်။ အငှားချထားခြင်းခံသူသည် ကနဦးသက်တမ်း(၁၀)နှစ် လုပ်ကိုင်ပြီးစီး၍ သက်တမ်းတိုး ပထမ(၅)နှစ်ဆက်လက်လုပ်ကိုင်လိုပါက မူလငှားရမ်းခတွင် (၁၀%)တိုးမြှင့်၍လည်းကောင်း၊ သက်တမ်းတိုး ဒုတိယ(၅)နှစ်ဆက်လက်လုပ်ကိုင်လိုပါက ပထမ(၅)နှစ်ငှားရမ်းခတွင်(၁၀%)တိုးမြှင့်၍လည်းကောင်း နှစ်စဉ်ပေးသွင်းရမည်။

(ခ) အငှားချထားခြင်းခံရသူသည် ငှားရမ်းခကို အောက်ဖော်ပြပါနှုန်းအတိုင်းပေးချေရမည်။

(၁) ကနဦးသက်တမ်း(၁၀)နှစ်တွင် တစ်နှစ်လျှင် ကျပ်သိန်း(၁၂၀၀)နှုန်း(ကျပ်သိန်း တစ်ထောင့်နှစ်ရာ တိတိ)ကို ငှားရမ်းခအဖြစ် နှစ်စဉ်ပေးချေရမည်။

(၂) ပထမအကြိမ် သက်တမ်းတိုး(၅)နှစ်အတွက် တစ်နှစ်လျှင် ကျပ်သိန်း(၁၃၂၀) ( ကျပ်သိန်း တစ်ထောင့်သုံးရာနှစ်ဆယ်တိတိ)ကို ငှားရမ်းခအဖြစ် နှစ်စဉ်ပေးချေရမည်။

(၃) ဒုတိယအကြိမ် သက်တမ်းတိုး(၅)နှစ်အတွက် တစ်နှစ်လျှင် ကျပ်သိန်း(၁၄၅၂)(ကျပ်သိန်း တစ်ထောင့်လေးရာငါးဆယ့်နှစ်သိန်းတိတိ)ကို ငှားရမ်းခအဖြစ် နှစ်စဉ်ပေးချေရမည်။

၅။ **အငှားချထားခြင်းခံရသူ၏ တာဝန်များ။** ။ အငှားချထားခြင်းခံရသူသည် အငှားစာချုပ်၏ သက်တမ်းအတွင်း အောက်ဖော်ပြပါများကို ဆောင်ရွက်ရန် သဘောတူညီကြောင်း ပဋိညာဉ်ပြုပါသည်။

(က) ငှားရမ်းခများကို အထက်အပိုဒ်(၄)ပါ သတ်မှတ်ချက်များနှင့်အညီ ပေးချေရမည်။

(ခ) အငှားချထားခြင်းခံရသူသည် ကန်တော်ကြီးရေချိုငါးဥယျာဉ်အား ငါးလုပ်ငန်းဆိုင်ရာ ဗဟုသုတများ ရရှိရန်နှင့် အများပြည်သူစိတ်ဝင်စားစွာ လေ့လာအပန်းဖြေနိုင်ရန်အတွက် အဆင့်မြှင့်တင်ခြင်းလုပ်ငန်းများကို ဆောင်ရွက်ရမည်။

(ဂ) အငှားချထားခြင်းခံရသူသည် လုပ်ကိုင်ခွင့်ရ ရေချိုငါးဥယျာဉ်လုပ်ငန်းတွင် စိတ်ဝင်စားဖွယ် ရေချိုငါးမျိုးစိတ်များအပြင် ရေငန်ငါးမျိုးစိတ်များကိုပါ တိုးချဲ့ပြသနိုင်ရန် စီစဉ်ဆောင်ရွက်ရမည်။

(ဃ) အငှားချထားခြင်းခံရသူသည် မိမိလုပ်ပိုင်ခွင့်ရရှိထားသော ကန်တော်ကြီးရေချိုငါးဥယျာဉ်ဆိုင်ရာ လုပ် ငန်းအားလုံးသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုလည်းကောင်း၊ တစ်ဆင့်ခံကန်ထရိုက် (Sub – Contract)လွှဲပြောင်းလုပ်ကိုင်ခွင့် မပြုရ၊

(င) အငှားချထားခြင်းခံရသူသည် လုပ်ငန်းလိုအပ်ချက်အရ အဆောက်အဦများပြုပြင်ခြင်း၊ တိုးချဲ့တည်ဆောက်ခြင်း၊ အသစ်တည်ဆောက်ခြင်းအပါအဝင် သစ်ပင်နှင့်ငါးမျိုးစိတ်များကို တိုးချဲ့ခြင်း၊ လျှော့ချခြင်းတို့ကို ပြုလုပ်ရန်အတွက် အငှားချထားသူ၏ ခွင့်ပြုချက်ရရှိပြီးမှသာ ဆောင်ရွက်ရမည်၊

(စ) အငှားချထားခြင်းခံရသူသည် ငါးဥယျာဉ်အား ပြုပြင်မွမ်းမံတည်ဆောက်ခြင်းလုပ်ငန်းများ မစတင်မီ (၁)လကြိုတင်၍ လုပ်ငန်းအစီအမံများ၊ ပုံစံများ၊ တွက်ချက်မှုများကို အငှားချထားသူထံ တင်ပြအတည်ပြုချက်ရယူရမည်၊

(ဆ) တန်တော်ကြီးရေချိုငါးဥယျာဉ်နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများ၏ စည်းကြပ်အခွန်အခများကို အငှားချထားခံရသူမှ ပေးဆောင်ရမည်၊

(ဇ) အငှားချထားခြင်းခံရသူသည် တန်တော်ကြီးရေချိုငါးဥယျာဉ်၏ ဂိတ်ဝင်ကြေးနှုန်း၊ ဖွင့်ချိန်၊ ပိတ်ချိန်များကို ပြင်ဆင်သတ်မှတ်လိုပါက အငှားချထားသူနှင့် ကြိုတင်ညှိနှိုင်းရယူဆောင်ရွက်ရမည်၊

(ဈ) ရေချိုငါးဥယျာဉ်အား အငှားချထားစဉ်ကာလအတွင်း အငှားချထားသည့်မြေမှ အရင်းအမြစ်အမျိုးမျိုးနှင့် ရှေးဟောင်းပစ္စည်းများတွေ့ရှိလျှင် အငှားချထားသူက ပိုင်ဆိုင်ရမည်၊

(ည) အငှားချထားခြင်းခံရသူသည် သဘာဝဘေးဒဏ်ကြောင့်ဖြစ်စေ၊ ရန်သူမျိုးငါးပါးကြောင့်ဖြစ်စေ၊ အငှားချ လုပ်ငန်းအား ထိခိုက်ပျက်ဆီးခြင်းများဖြစ်ပေါ်လာပါက ဆုံးရှုံးမှုအတွက် အငှားချထားသူထံသို့ လျော်ကြေးတောင်းခံခြင်းမရှိစေရ၊

(ဋ) အငှားချထားခြင်းခံရသူ လုပ်ကိုင်မည့်လုပ်ငန်းများသည် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီလုပ်ကိုင်ရမည်၊

(ဌ) တန်တော်ကြီးရေချိုငါးဥယျာဉ်ဆိုင်ရာလုပ်ငန်းများကို (၆)လတစ်ကြိမ် (သို့မဟုတ်) အခါအားလျော်စွာစစ်ဆေးခံရခြင်းကို အငှားချထားခံရသူမှ သဘောတူလက်ခံရမည်၊

(ဍ) အငှားချထားခြင်းခံရသူသည် စာချုပ်ပါစည်းကမ်းချက်များကို လိုက်နာဆောင်ရွက်ခြင်းမရှိကြောင်း စစ်ဆေးတွေ့ရှိရပါက ပထမအကြိမ်သတိပေးခြင်းများကို အငှားချထားသူမှ ပြုလုပ်မည်၊ စာချုပ်ပါစည်းကမ်းချက်များကို လိုက်နာဆောင်ရွက်ခြင်းမရှိကြောင်း ဒုတိယအကြိမ်အထိစစ်ဆေးတွေ့ရှိပါက အငှားချထားခြင်းကို ရပ်စဲခံရမည်ဖြစ်ပြီး လုပ်ကိုင်ဆဲစာချုပ်နှစ်အတွက် ပေးသွင်းရန်ငွေများကို ပေးသွင်းရန်တာဝန်ယူရမည်၊

(ဎ) အငှားချထားခံရသူ တိုးချဲ့ဆောင်ရွက်သောလုပ်ငန်းများသည် တန်တော်ကြီးရေချိုငါးဥယျာဉ်၏ မူလရည်ရွယ်ချက်ကိုလည်းကောင်း၊ သဘာဝပတ်ဝန်းကျင်ကိုလည်းကောင်း ထိခိုက်ပျက်ဆီးစေသောလုပ်ငန်းများမဖြစ်စေရ၊ ၎င်းအပြင် မြန်မာ့ယဉ်ကျေးမှုနှင့် ဝုဏ်သိက္ခာထိခိုက်ညှိုးနွမ်းစေသောလုပ်ငန်းများကို တိုးချဲ့လုပ်ကိုင်ခြင်း၊ အငှားချထားခြင်းများ ခွင့်မပြု၊

(ဃ) စာချုပ်ပါစည်းကမ်းဖောက်ဖျက်၍လည်းကောင်း၊ စာချုပ်သက်တမ်းပြည့်၍ ငှားရမ်းခွင့်ကုန်ဆုံးလျှင်သော်လည်းကောင်း၊ ငါးလုပ်ငန်းဦးစီးဌာနမှ လွှဲပြောင်းပေးအပ်ထားသောပစ္စည်းများ၊ အဆောက်အဦများ(သို့မဟုတ်) ပြင်ဆင်ဆောက်လုပ်ထားသော အဆောက်အဦများအပါအဝင် တိုးချဲ့ခြင်း၊ လျှော့ချခြင်းပြုလုပ်ထားသော သစ်ပင်များ၊ ငါးမျိုးစိတ်များကို ပြန်လည်လွှဲပြောင်းပေးအပ်ရမည်။ ၎င်းအပြင် အငှားထားခြင်းခံရသူမှ တိုးချဲ့ဆောက်လုပ်ထားသော အဆောက်အဦများ၊ မရွှေ့မပြောင်းနိုင်သောပစ္စည်းများကို အငှားချထားခြင်းခံရသူမှ အငှားချထားသူထံသို့ ပြန်လည်လွှဲပြောင်းပေးအပ်ရမည်၊

(င) အငှားချထားခံရသူနှင့် အငှားချထားသူတို့သည် နှစ်ဦးနှစ်ဖက်သဘောတူချက်ဖြင့် စာချုပ်ပါစည်းကမ်းများကို ပြင်ဆင်ပြောင်းလဲခြင်းပြုလုပ်နိုင်သည်။

(စ) ကန်တော်ကြီးရေချိုငါးဥယျာဉ်အား ပိုမိုကောင်းမွန်အောင် ပြုပြင်ရေး၊ တိုးချဲ့ရင်းနှီးမြှုပ်နှံခြင်းတို့ကို အငှားချထားသူ၏ ကြိုတင်ညှိနှိုင်း သဘောတူညီချက်ဖြင့်လည်းကောင်း၊ အငှားချထားခံရသူ၏ အဆိုပြုလွှာအရလည်းကောင်း၊ အငှားစာချုပ်လက်မှတ်ရေးထိုးပြီး(၂)နှစ်အတွင်း ဆောင်ရွက်ရမည်။

(ဆ) ငှားရမ်းကာလအတွင်း မီးအာမခံနှင့် လုပ်ငန်းအတွက် အခြားလိုအပ်သော အာမခံများကို မြန်မာအာမခံလုပ်ငန်း၏ သတ်မှတ်ပြဋ္ဌာန်းချက်များနှင့်အညီ အငှားချထားခြင်းခံရသူက တာဝန်ယူထားရှိရန်နှင့် အာမခံအကျိုးခံစားခွင့်အား အငှားချထားခြင်းခံရသူက ရရှိစေရမည်။ ထိုကာလအတွင်း အာမခံအကျိုးခံစားခွင့် ခံစားပြီးနောက် အငှားချထားခြင်းခံရသူသည် ရေချိုငါးဥယျာဉ်အား အဆိုပြုလုပ်ငန်းစဉ်များအတိုင်း ဆက်လက်တာဝန်ယူအကောင်အထည်ဖော်ဆောင်ရွက်ပေးရမည်။

၆။ **အငှားချထားသူ၏တာဝန်များ။** ။အငှားချထားခြင်းခံရသူက ငှားရမ်းခပေးချေခြင်းကိုလည်းကောင်း၊ ဤအငှားစာချုပ်ပါ ဝတ္တရားများ၊ စည်းကမ်းချက်များနှင့် သဘောတူညီချက်များအတိုင်းဆောင်ရွက်၍ လိုက်နာခြင်းကိုလည်းကောင်း အထောက်အထားပြု၍ အငှားချထားသူက အငှားချထားခြင်းခံရသူနှင့် အောက်ဖော်ပြပါအတိုင်း ဝတ္တရားပြုပါသည်၊

(က) ငှားရမ်းထားခြင်းခံရသူအား ဤအငှားစာချုပ်၌ ခွင့်ပြုထားသည့်သက်တမ်းအတွက် ရပိုင်ခွင့်များကို အငှားချထားသူ၏(သို့မဟုတ်)အငှားချထားသူမှတဆင့် (သို့မဟုတ်) အငှားချထားသူအတွက် ယုံကြည်အပ်နှံမှုမှ တရားဝင်ဆိုင်ရာ တောင်းဆိုသူများ၏ အနှောက်အယှက်မရှိဘဲ ငြိမ်းချမ်းအေးဆေးစွာ လက်ရှိထား၍ ခံစားခွင့်ပြုရမည်၊

(ခ) အငှားချထားခြင်းခံရသူက ရပိုင်ခွင့်များနှင့်စပ်လျဉ်း၍ စီမံဆောင်ရွက်ရာ၌ အခါအားလျော်စွာ ပေါ်ပေါက်လာသောအခက်အခဲများကိုအငှားချထားခြင်းခံရသူ၏စရိတ်ဖြင့်ကူညီပံ့ပိုးဖြေရှင်းပေးရမည်။

၇။ မြေသို့ပြန်လည်ဝင်ရောက်နိုင်ခွင့်။ ။ အငှားချထားခြင်းခံရသူက ဤအငှားစာချုပ်ပါ စည်းကမ်းများကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာဖျက်ကွက်လျှင်လည်းကောင်း၊ ထိုသို့ဖျက်ကွက်ကြောင်း အငှားချထားသူက ချအပ်သော နို့တစ်စာပါကာလများအတွင်း မဆောင်ရွက်မှု ( သို့မဟုတ် ) မလိုက်နာမှုကို ပြင်ဆင်ပေးရန် ဖျက်ကွက် လျှင်လည်းကောင်း၊ အငှားချထားသူတွင် အငှားစာချုပ်နှင့်သက်ဆိုင်အကျုံးဝင်သော ပစ္စည်းတစ်ရပ်လုံးပေါ်တွင် ငြိမ်းချမ်းအေးဆေးစွာ ပြန်လည်ဝင်ရောက်၍ လက်ရှိထားပိုင်ခွင့်ရှိရမည်။ ထိုအခါ ဤအငှားစာချုပ်သည် ရပ်စဲ၍ဆုံးခန်းတိုင်ရောက်ရမည်ဟူ၍ နှစ်ဦးနှစ်ဖက်သဘောတူကြပါသည်။

၈။ **မလွန်ဆန်နိုင်သောဖြစ်ရပ်များ**

(က) စာချုပ်ချုပ်ဆိုသူတစ်ဖက်က 'မလွန်ဆန်နိုင်သောဖြစ်ရပ်များ'ကြောင့် ယင်း၏တာဝန်များကို ဆောင်ရွက်ရန် (သို့မဟုတ်)ဤသဘောတူစာချုပ်အရ စာချုပ်ချုပ်ဆိုသူ အခြားတစ်ဖက်က တာဝန်ယူဆောင်ရွက်ခြင်းကို လက်ခံရန် လုံးလုံးလျားလျားဖြစ်စေ၊ တစ်စိတ်တစ်ဒေသဖြစ်စေ၊ ယာယီမစွမ်းဆောင်နိုင်လျှင် ထိခိုက်သည့်တစ်ဖက် အခြားတစ်ဖက်အား အထောက်အထားပြသည့်အကြောင်းအရင်းဖြစ်ပွါးပြီးနောက်(၁၄)ရက်အတွင်း မလွန်ဆန်နိုင်သည့်ဖြစ်ရပ်ကို အပြည့်အစုံစာဖြင့်ရေးသား၍ အကြောင်းကြားရန်သဘောတူထားကြပါသည်။ မလွန်ဆန်နိုင်သောဖြစ်ရပ်၏အကြောင်းအရင်းကို လျှော့ချနိုင်သမျှ လျှော့ချနိုင်စွာ ဖယ်ရှားရမည်။ မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် စာချုပ်ပါကိစ္စရပ်များအား ဆက်လက်ဆောင်ရွက်နိုင်ခြင်းမရှိလျှင် စာချုပ်ချုပ်ဆိုသူတစ်ဖက်သည် စာချုပ်အား ရပ်စဲနိုင်သည်။

(ခ) 'မလွန်ဆန်နိုင်သောဖြစ်ရပ်' ဆိုသည်မှာ သဘာဝအတိုင်းကျရောက်သည့် ဘေးဒုက္ခ၊ အစိုးရ၏တားမြစ်ချက်၊ သပိတ်မှောက်ခြင်း၊ စစ်ပွဲများ၊ မငြိမ်မသက်မှုများ၊ ပေါက်ကွဲမှု၊ မီးလောင်မှု၊ ရေကြီးမှု၊ ငလျှင်လှုပ်ခြင်း၊ လေမုန်တိုင်းကျခြင်းများနှင့် ဖော်ပြထားသည့်များနှင့်အလားတူဖြစ်သည့် အခြားအကြောင်းများကိုဆိုလိုသည်။ ယင်းအကြောင်းများကို မည်သည့်ဘက်ကမျှ မထိန်းချုပ်နိုင်သည့်အပြင် အလေးဂရုနှင့် လုံလဝီရိယစိုက်ထုတ်သင့်သလောက် စိုက်ထုတ်သော်လည်း ကျော်လွှားခြင်းငှာမစွမ်းနိုင်သောဖြစ်ရပ်များဖြစ်သည်။

၉။ **စာချုပ်ရပ်စဲခြင်း**

(က) ဤအငှားစာချုပ်ကို အောက်ဖော်ပြအဖြစ်အပျက်များအနက် အဖြစ်အပျက်တစ်ခုခု ဖြစ်ပွားပြီးမှသာ ရပ်စဲနိုင်သည်။

(ခ) အငှားချထားခြင်းခံရသူက ရပိုင်ခွင့်များနှင့်စပ်လျဉ်း၍ စီမံဆောင်ရွက်ရာ၌ အခါအားလျော်စွာ ပေါ်ပေါက်လာသောအခက်အခဲများကိုအငှားချထားခြင်းခံရသူ၏စရိတ်ဖြင့်ကူညီပံ့ပိုးဖြေရှင်းပေးရမည်။

၇။ မြေသို့ပြန်လည်ဝင်ရောက်နိုင်ခွင့်။ ။ အငှားချထားခြင်းခံရသူက ဤအငှားစာချုပ်ပါ စည်းကမ်းများကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန်ပျက်ကွက်လျှင်လည်းကောင်း၊ ထိုသို့ပျက်ကွက်ကြောင်း အငှားချထားသူက ချအပ်သော နို့တစ်စာပါကာလများအတွင်း မဆောင်ရွက်မှု (သို့မဟုတ်) မလိုက်နာမှုကို ပြင်ဆင်ပေးရန် ပျက်ကွက် လျှင်လည်းကောင်း၊ အငှားချထားသူတွင် အငှားစာချုပ်နှင့်သက်ဆိုင်အကျုံးဝင်သော ပစ္စည်းတစ်ရပ်လုံးပေါ်တွင် ငြိမ်းချမ်းအေးဆေးစွာ ပြန်လည်ဝင်ရောက်၍ လက်ရှိထားပိုင်ခွင့်ရှိရမည်။ ထိုအခါ ဤအငှားစာချုပ်သည် ရပ်စဲ၍ဆုံးခန်းတိုင်ရောက်ရမည်ဟူ၍ နှစ်ဦးနှစ်ဖက်သဘောတူကြပါသည်။

၈။ မလွန်ဆန်နိုင်သောဖြစ်ရပ်များ

(က) စာချုပ်ချုပ်ဆိုသူတစ်ဖက်က 'မလွန်ဆန်နိုင်သောဖြစ်ရပ်များ'ကြောင့် ယင်း၏တာဝန်များကို ဆောင်ရွက်ရန် (သို့မဟုတ်)ဤသဘောတူစာချုပ်အရ စာချုပ်ချုပ်ဆိုသူ အခြားတစ်ဖက်က တာဝန်ယူဆောင်ရွက်ခြင်းကို လက်ခံရန် လုံးလုံးလျားလျားဖြစ်စေ၊ တစ်စိတ်တစ်ဒေသဖြစ်စေ၊ ယာယီမစွမ်းဆောင်နိုင်လျှင် ထိခိုက်သည့်ဘက်က အခြားတစ်ဖက်အား အထောက်အထားပြသည့်အကြောင်းအရင်းဖြစ်ပွားပြီးနောက်(၁၄)ရက်အတွင်း မလွန်ဆန်နိုင်သည့်ဖြစ်ရပ်ကို အပြည့်အစုံစာဖြင့်ရေးသား၍ အကြောင်းကြားရန်သဘောတူထားကြပါသည်။ မလွန်ဆန်နိုင်သောဖြစ်ရပ်၏အကြောင်းအရင်းကို လျှင်မြန်နိုင်သမျှ လျှင်မြန်စွာ ဖယ်ရှားရမည်။ မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် စာချုပ်ပါကိစ္စရပ်များအား ဆက်လက်ဆောင်ရွက်နိုင်ခြင်းမရှိလျှင် စာချုပ်ချုပ်ဆိုသူတစ်ဖက်သည် စာချုပ်အားရပ်စဲနိုင်သည်။

(ခ) 'မလွန်ဆန်နိုင်သောဖြစ်ရပ်' ဆိုသည်မှာ သဘာဝအတိုင်းကျရောက်သည့် ဘေးဒုက္ခ၊ အစိုးရ၏တားမြစ်ချက်၊ သပိတ်မှောက်ခြင်း၊ စစ်ပွဲများ၊ မငြိမ်မသက်မှုများ၊ ပေါက်ကွဲမှု၊ မီးလောင်မှု၊ ရေကြီးမှု၊ ငလျင်လှုပ်ခြင်း၊ မလေမုန်တိုင်းကျခြင်းများနှင့် ဖော်ပြထားသည်များနှင့်အလားတူဖြစ်သည့် အခြားအကြောင်းများကိုဆိုလိုသည်။ ယင်းအကြောင်းများကို မည်သည့်ဘက်ကမှ မထိန်းချုပ်နိုင်သည့်အပြင် အလေးဝရှုနှင့် လုံလဝီရိယစိုက်ထုတ်သင့်သလောက် စိုက်ထုတ်သော်လည်း ကျော်လွှားခြင်းငှာမစွမ်းနိုင်သောဖြစ်ရပ်များဖြစ်သည်။

၉။ စာချုပ်ရပ်စဲခြင်း

(က) ဤအငှားစာချုပ်ကို အောက်ဖော်ပြအဖြစ်အပျက်များအနက် အဖြစ်အပျက်တစ်ခုခု ဖြစ်ပွားပြီးမှသာ ရပ်စဲနိုင်သည်။

(၁) စာချုပ်ချုပ်ဆိုသူတစ်ဖက်ဖက်ကဤအငှားစာချုပ်ပါ စည်းကမ်းချက်တစ်ခုခုကိုဖောက်ဖျက်၍ အဆိုပါဖောက်ဖျက်မှုကို ပြင်ဆင်ရန် တောင်းဆိုသည့် အခြားတစ်ဖက်မှ စာဖြင့်ရေးသားသော နို့တစ်စာရရှိပြီးနောက် ရက်ပေါင်း(၃၀)အတွင်းယင်းဖောက်ဖျက်မှုကိုပြင်ဆင်ရန်၊ ထိုတစ်ဖက်ကပျက်ကွက်လျှင် မဖောက်ဖျက်သည့်တစ်ဖက်က ရက်ပေါင်း(၃၀)ထက်မနည်းသော နောက်ထပ်စာဖြင့်ရေးသားသည့်နို့တစ်စာချအပ်၍အငှားစာချုပ်ကို ရပ်စဲနိုင်ခွင့်ရှိရမည်။ (သို့မဟုတ်)

(၂) စာချုပ်ချုပ်ဆိုသည့် နှစ်ဦးနှစ်ဖက်၏စာဖြင့် ရေးသားသော သဘောတူညီချက်ဖြင့် ရပ်စဲနိုင်သည်။ ယင်းသို့ရပ်စဲရန်အတွက် စာချုပ်ချုပ်ဆိုသူများက ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် သက်ဆိုင်သော လုပ်ထုံးလုပ်နည်းများပါ ပြဋ္ဌာန်းချက်များနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ထံ ဤအငှားစာချုပ်ကို ရပ်စဲရန်အတွက် လျှောက်လွှာကိုပူးတွဲတင်ပြရမည်။ (သို့မဟုတ်)

(၃) မလွန်ဆန်နိုင်သောဖြစ်ရပ် ဖြစ်ပေါ်လာသောအခါ အငှားစာချုပ်ကို ရပ်စဲနိုင်ခွင့်ရှိရမည်။

**၁၀။ အနုညာတခုံတင်အဆုံးအဖြတ်ခံယူခြင်း**

(က) ဤသဘောတူစာချုပ်မှာဖြစ်စေ၊ ဤသဘောတူစာချုပ်နှင့်စပ်လျဥ်း၍ ချုပ်ဆိုသည့် အခြားသဘောတူစာချုပ် (သို့မဟုတ်) စာချုပ်စာတမ်းမှာဖြစ်စေ အငြင်းပွားမှုဖြစ်ပေါ်လျှင် စာချုပ်ချုပ်ဆိုသူများသည် အဆိုပါအငြင်းပွားမှုကို မိတ်ဝတ်မပျက် ဖြေရှင်းရန်အလို့ငှာ အချင်းချင်းသဘောထားရိုးဖြင့် ညှိနှိုင်းတိုင်ပင်ကြရမည်။

(ခ) အဆိုပါအငြင်းပွားမှုကို မိတ်ဝတ်မပျက်မဖြေရှင်းနိုင်လျှင် ၊ ယင်းအငြင်းပွားမှုကို အနုညာတခုံတင်အဆုံးအဖြတ်ခံယူ၍ ဖြေရှင်းရမည်၊ ယင်းအနုညာတခုံတွင် စာချုပ်ချုပ်ဆိုသူအသီးသီးက ခုံလူကြီးတစ်ဦးစီခန့်၍ ယင်းလူကြီးနှစ်ဦးဖြင့် ဖြေရှင်းရမည်။ ယင်းခုံလူကြီးများက သဘောတူညီမှုမရှိလျှင် အဆိုပါအငြင်းပွားမှုကို ယင်းလူကြီးများက အမည်တင်သွင်း၍ ဒိုင်လူကြီးထံ လွှဲအပ်ရမည်။ ခုံလူကြီးများ၏ (သို့မဟုတ်) ဒိုင်လူကြီး၏ အဆုံးအဖြတ်ချက်သည် စာချုပ်ချုပ်ဆိုသူနှစ်ဖက်လုံးပေါ်တွင် အပြီးအပြတ် တည်ရမည်။

(ဂ) အနုညာတခုံတွင် အဆုံးအဖြတ်ခံယူသည့်ကိစ္စများသည် ၁၉၄၄ခုနှစ် မြန်မာနိုင်ငံ အနုညာတခုံ တင်အဆုံးအဖြတ်ခံယူခြင်းအက်ဥပဒေ( ၁၉၄၄ခုနှစ် မြန်မာနိုင်ငံအက်ဥပဒေအမှတ် ၄ )နှင့် ဖြစ်စေ၊ ယင်းအက်ဥပဒေ၏ တည်ဆဲပြင်ဆင်ချက်နှင့်ဖြစ်စေ အဖက်ဖက်အားလုံးတွင် ကိုက်ညီရမည်၊ အနုညာတခုံတင် အဆုံးအဖြတ်ခံယူရာနေရာသည် မြန်မာနိုင်ငံ ရန်ကုန်မြို့ဖြစ်ရမည်။ အနုညာတခုံတင်အဆုံးအဖြတ်ခံယူခြင်းဆိုင်ရာ အခကြေးငွေများကို ရှုံးနိမ့်သွားသည့်ဘက်ကကျခံရမည်။

၁၁။ **ကျွမ်းကျင်သူများအားငှားရမ်းခြင်း**

(က) ကန်တော်ကြီးရေချိုငါးဥယျာဉ်အား အဆင့်မြှင့်တင်ခြင်းလုပ်ငန်းများကို ဆောင်ရွက်ရာတွင် လိုအပ်လာပါက ပြည်တွင်းပြည်ပမှ ကျွမ်းကျင်သူများကို အငှားချထားခြင်းခံရသူက ငှားရမ်း၍ တာဝန်ပေးအပ်နိုင်သည်။

(ခ) အဆိုပါပြည်ပမှ ကျွမ်းကျင်သူများသည် မြန်မာနိုင်ငံတွင် နေထိုင်စဉ်ကာလအတွင်း ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တည်ဆဲစည်းမျဉ်းဥပဒေများကို လေးစားလိုက်နာနိုင်ရန်နှင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၏ ပြည်တွင်းရေးကိစ္စများကို ဝင်ရောက်စွက်ဖက်ခြင်းမပြုရန် အငှားချထားခြင်းခံရသူက တာဝန်ယူရမည်။

၁၂။ **အဆောက်အဦနှင့် ရပိုင်ခွင့်များပြန်လည်လွှဲပြောင်းခြင်း။** ။ အငှားစာချုပ်သက်တမ်းကုန်ဆုံးပြီးနောက် ဖြစ်စေ၊ အကြောင်းတစ်စုံတစ်ရာကြောင့် စာချုပ်ရပ်စဲလျှင်ဖြစ်စေ၊ အငှားချထားသောမြေ နှင့် မြေပေါ်ရှိရပိုင်ခွင့်များနှင့် အငှားချထားခြင်းခံရသူမှ တိုးချဲ့ရင်းနှီးမြှုပ်နှံမှု များကို အငှားထားသူသို့ အခမဲ့လွှဲပြောင်းပေးရမည်။

၁၃။ **ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း**

(က) အငှားချထားခြင်းခံရသူသည် မြေနှင့်ရပိုင်ခွင့်များ၏ နယ်မြေနှင့်အနီးတစ်ဝိုက်ကို ပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်ရန်အတွက် တာဝန်ရှိရမည်။

(ခ) အငှားချထားခြင်းခံရသူသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ ဥပဒေများအရ ခွင့်ပြုသည့် အဆင့်နှင့် စံအတွင်း လေထုညစ်ညမ်းမှု၊ ရေထုညစ်ညမ်းမှု၊ မြေထုညစ်ညမ်းမှုနှင့် အခြားပတ်ဝန်းကျင်ညစ်ညမ်းလာခြင်းကို ထိန်းချုပ်ရမည်။

၁၄။ **ခါတ်သတ္တုပင်ရင်းအခြေအမြစ်များနှင့် ရှေးဟောင်းပစ္စည်းများ။** ။ ဤအငှားစာချုပ်၏ သက်တမ်းအတွင်း မြေနှင့်ရပိုင်ခွင့်များအပေါ်တွင်ဖြစ်စေ၊ ယင်းတို့မှဖြစ်စေ၊ ဓါတ်သတ္တုပင်ရင်းအခြေအမြစ် များ မြှုပ်နှံထားသည့် ရတနာများအပြင် မမျှော်လင့်ဘဲ တွေ့ရှိရသည့် ရှေးဟောင်းပစ္စည်းများသည် အငှားချထားသူ၏ ပစ္စည်းဖြစ်ရမည့်အပြင်၊ အငှားချထားသူသည် ဆိုခဲ့သည့်ပစ္စည်းများကို မည်သည့်အခါ၌မဆို သက်ဆိုင်ရာ နိုင်ငံတော်အဖွဲ့အစည်းများသို့တင်ပြ၍ မည်သည့်အခါ၌အဆို တူးဖော်နိုင်ခွင့်ရှိရမည်။

၁၅။ **ဘာသာစကား။** ။ ဤအငှားစာချုပ်အရ (သို့မဟုတ်) ဤအငှားစာချုပ်နှင့်အညီ လဲလှယ်သည့် (သို့မဟုတ်) ချအပ်သည့် စာပေးစာယူများနှင့် နို့တစ်စာများကို မြန်မာဘာသာဖြင့် ပြုလုပ်ရမည်။

၁၆။ **စာပေးစာယူအတွက် နေရပ်လိပ်စာ။** ။ ဤအငှားစာချုပ်အရ (သို့မဟုတ်) ဤအငှားစာချုပ်နှင့်အညီ စာပေးစာယူနှင့် နို့တစ်စာအားလုံးကို ဤအငှားစာချုပ်၏ ပထမစာမျက်နှာတွင် ဖော်ပြထားသည့် နေရပ်လိပ်စာ၌ဖြစ်စေ၊ လက်ခံရရှိမည့် စာချုပ်ချုပ်ဆိုသူက တစ်ဖက်စာချုပ်ချုပ်ဆိုသူအား အခါအားလျော်စွာ စာဖြင့်ရေးသားအကြောင်းကြားထားသည့် အခြားနေရပ်လိပ်စာ၌ဖြစ်စေ လက်ခံရရှိမည့် စာချုပ်ချုပ်ဆိုသူထံ ပေးပို့ရမည်။

REPUBLIC OF THE UNION OF MYANMAR

အခွန်တံဆိပ်ခေါင်း

REVENUE STAMP

၂၀၀ကျပ် နှစ်ရာကျပ် K 200

ဤအငှားစာချုပ်ကို အထက်တွင်ဖော်ပြထားသည့် ၂၀၁၃ခုနှစ်၊ အောက်တိုဘာလ၊ (၉)ရက်နေ့တွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ရန်ကုန်မြို့၌ စာချုပ်ကို လက်မှတ်ရေးထိုးချုပ်ဆိုကြပါသည်။

| အငှားချထားသူ | အငှားချထားခြင်းခံရသူ |
| --- | --- |
| ရန်ကုန်တိုင်းဒေသကြီးငါးလုပ်ငန်းဦးစီးဌာန(ကိုယ်စား) | |
| ( လှထွန်း ) | ( ဒေါ်ယုယုဝင်း ) |
| ညွှန်ကြားရေးမှူး | ၁၂/လသန(နိုင်) ၀၀၅၂၉၆ |
| တိုင်းဒေသကြီးဦးစီးဌာနမှူး | အမှတ်(၁၁၅)၊ ဓမ္မစေတီလမ်း၊ |
| ရန်ကုန်တိုင်းဒေသကြီးငါးလုပ်ငန်းဦးစီးဌာန | (၁၀)ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။ |

## အသိသက်သေများ

၁။ ဦးကျော်မင်း — အခွန်ဌာနမှူး
ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ

၂။ ဦးမင်းဆွေ — တိုင်းဒေသကြီးဦးစီးဌာနမှူး
ရန်ကုန်တိုင်းဒေသကြီးဆည်မြောင်းဦးစီးဌာန

၃။ ဦးဝင်းမြင့် — တိုင်းဒေသကြီးဦးစီးဌာနမှူး
ရန်ကုန်တိုင်းဒေသကြီးစိုက်ပျိုးရေးဦးစီးဌာန

၄။ ဦးသန်းမြင့် — တိုင်းဒေသကြီးဦးစီးဌာနမှူး
ရန်ကုန်တိုင်းဒေသကြီးမြေစာရင်းဦးစီးဌာန

၅။ ဒေါ်သွေးသွေးချစ် — တိုင်းဒေသကြီးဦးစီးဌာနမှူး
ရန်ကုန်တိုင်းဒေသကြီးစီမံကိန်းရေးဆွဲရေးဦးစီးဌာန

၆။ ဒေါက်တာမြင့်ဆွေ — တိုင်းဒေသကြီးဦးစီးဌာနမှူး
ရန်ကုန်တိုင်းဒေသကြီးမွေးမြူရေးနှင့်ကုသရေးဦးစီးဌာန

၇။ ဦးကြည်တင် — ညွှန်ကြားရေးမှူး
ရန်ကုန်တိုင်းဒေသကြီးစည်ပင်သာယာရေးအဖွဲ့

၈။ ဦးတင်ထွဋ် — ဦးစီးအရာရှိ
ငါးလုပ်ငန်းဦးစီးဌာန(ဥပဒေရေးရာဌာနစု)

၉။ ဦးအောင်သန်းမြင့် — ၁၂/ပဘတ(နိုင်) ၀၀၀၇၀၃
အမှတ်(၁၁၅)၊ ဓမ္မစေတီလမ်း၊ (၁၀)ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။

# MYANMAR AQUARIUMS COMPANY LIMITED

Bogyoke Park Compound, Nat Mauk Street, Bo Cho (1st) Quarter, Bahan Township, Yangon Region.

MYANMAR AQUARIUMS Tel: 95 -1- 555613

သို့ /

တိုင်းဒေသကြီးဦးစီးမှူး

ငါးလုပ်ငန်းဦးစီးဌာန

ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၊ MACL / ငါးလုပ်ငန်း / 001-Oct 15

ရက်စွဲ ၊ ၊ ၂၀၁၅ ခုနှစ် အောက်တိုဘာလ ၁၂ ရက်

အကြောင်းအရာ၊ ၊ ၂၀၁၅-၂၀၁၆ ခုနှစ်အတွက် ကန်တော်ကြီး ရေချိုငါးဥယျာဉ် ငှားရမ်းခပေးသွင်းခြင်း၊

Myanmar Aquarium Co.Ltd သည် ကန်တော်ကြီးရေချိုငါးဥယျာဉ်ကို ရန်ကုန်တိုင်း ဒေသကြီး ငါးလုပ်ငန်းဦးစီးဌာနနှင့် ငှားရမ်းမှုစာချုပ်ချုပ်ဆိုကာ အဆင့်မြှင့်တင်ခြင်းလုပ်ငန်းများကို ဆောင်ရွက်လုပ်ကိုင်နေပါသည်၊

၂၀၁၅ ခုနှစ် အောက်တိုဘာလ ၉ ရက်နေ့မှ ၂၀၁၆ ခုနှစ် အောက်တိုဘာလ ၈ ရက်နေ့အထိ တစ်နှစ်တာ ငှားရမ်းခ ငွေကို နှစ်ဖက်သဘောတူထားသည့်အတိုင်း မြန်မာ့စီးပွါးရေးဘဏ် ကြည့်မြင်တိုင်မြို့နယ်တွင် ၂၀၁၅ ခုနှစ် အောက်တို ဘာလ (၉) ရက်နေ့က ပေးသွင်းခဲ့ပါသည်၊

ပေးသွင်းခဲ့သည့် ငွေပမာဏမှာ ကျပ်သိန်း တစ်ထောင့်နှစ်ရာ ခြောက်ဆယ် ( ၁၂၆၀ သိန်း) တိတိ ဖြစ်ပါသည်၊ ထိုသို့ ပေးသွင်းခဲ့ပြီးဖြစ်ကြောင်း သိသာပါရန် တင်ပြအစီရင်ခံအပ်ပါသည်၊

ငွေသွင်းချလံမိတ္တူကို ပူးတွဲတင်ပြပါသည်၊

လေးစားစွာဖြင့်

(သိန်းဇော်)

ဒါရိုက်တာ၊ Myanmar Aquarium Co.Ltd

Phone 09 5178442

e-mail: thantzinaunglan@gmail.com

ငွေသွင်းချလံအား လက်ခံ ရရှိပါသည်။

[illegible]

[illegible]

ရန်ကုန်တိုင်းဒေသကြီး ငါးလုပ်ငန်း

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

မွေးမြူရေး၊ ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန

ရန်ကုန်တိုင်းဒေသကြီးငါးလုပ်ငန်းဦးစီးဌာန၊

ဘုရင့်နောင်လမ်းမကြီး၊ အနောက်ကြို့ကုန်း၊ အင်းစိန်၊

စာအမှတ်-ငလ/ရကတ- ၆က/၂၀၁၃(ခ၄၇၈-/ခ၄၈၂
ရက်စွဲ၊ ၂၀၁၃ခုနှစ်၊ အောက်တိုဘာလ (၁၅)ရက်

သို့

ဝန်ကြီး
စိုက်ပျိုးရေးနှင့်မွေးမြူရေးဝန်ကြီးဌာန
ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊

အကြောင်းအရာ ။ ။ ကန်တော်ကြီးရေချိုငါးဥယျာဉ်အငှားချထားခြင်းအား လုပ်ငန်းစာချုပ်ချု
ပြီးစီးကြောင်းနှင့် တစ်နှစ်အတွက် ငှားရမ်းခကျပ်သိန်း(၁၂၀၀)လက်ခံရ
ဖြစ်ကြောင်း တင်ပြခြင်း။

၁။ ကန်တော်ကြီးရေချိုငါးဥယျာဉ် အငှားတင်ဒါချထားခြင်းခံရသူ ဒေါ်ယုယုဝင်း( မှတ်ပုံတင်အမှ ၁၂/လသန (နိုင်) ၀၁၅၂၇၆ )နှင့် ရန်ကုန်တိုင်းဒေသကြီးငါးလုပ်ငန်းဦးစီးဌာနတို့သည်တိုင်းဒေသကြီးအ အဖွဲ့၏ခွင့်ပြုချက်အရ (၉.၁၀.၂၀၁၃)နေ့တွင် လုပ်ငန်းငှားရမ်းစာချုပ်အား လက်မှတ်ရေးထိုးချုပ် ဖြစ်ပါသည်၊ လုပ်ငန်းငှားရမ်းစာချုပ်မိတ္တူအား ပူးတွဲတင်ပြပါသည်၊

၂။ တစ်နှစ်အတွက် ငှားရမ်းခကျပ်သိန်း(၁၂၀၀)အား ( ၄.၁၀.၂၀၁၃ )ရက်နေ့တွင် ကြည့်မြင် မြန်မာ့စီးပွားရေးဘဏ်တွင်စာရင်းရှင်ဖြင့် တိုင်းဒေသကြီးငါးလုပ်ငန်းဦးစီးဌာနမှ ယာယီအစီအစဉ်ဖြင့်လ ပေးသွင်းထားပြီးဖြစ်ပါသည်၊

၃။ စာချုပ်စည်းကမ်းအပိုဒ် (၃-ခ)အရ ငှားရမ်းခရငွေကျပ်သိန်း ( ၁၂၀၀ )သည် (၉.၁၀.၂၀ (၈.၁၀.၂၀၁၄)ထိ တစ်နှစ်အတွက်ဖြစ်သော်လည်း ၂၀၁၃-၂၀၁၄ဘဏ္ဍာရေးနှစ်နှင့် ၂၀၁၄-၂၀၁၅ဘဏ္ဍာ နှစ်တို့နှင့်ပါဝင်ပတ်သက်နေပါသဖြင့် တိုင်းဒေသကြီးငါးလုပ်ငန်းဦးစီးဌာန၏ ငှားရမ်းခရငွေတွင် လွှဲ ပေးသွင်းနိုင်ရေးအတွက် လမ်းညွှန်မှုပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

၁၅/၁၀

လှထွန်း
တိုင်းဒေသကြီးဦးစီးဌာနမှူး

မိတ္တူ
- ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၊ ရန်ကုန်မြို့၊
- ဝန်ကြီး၊ ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန၊ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ရန်ကုန်မြို့။
- ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်းဦးစီးဌာန၊ နေပြည်တော်။
- ညွှန်ကြားရေးမှူး၊ ရသုံးမှန်းခြေငွေစာရင်းဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်မြို့။
- ရုံးလက်ခံ။ /- မျှောစာတွဲ။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်တိုင်းဒေသကြီးအစိုးရ
ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ
အင်ဂျင်နီယာဌာန (အဆောက်အအုံ)

…' 018202

စာအမှတ် ၊ ၃၈၆၆ / ၃၇၉၆ / စည်ပင်- ယာ(အုံ)
ရက်စွဲ ၊ ၂၀၁၄ ခုနှစ် နိုဝင်ဘာ လ၊ ၁၄ ရက်

သို့
Myanmar Aquariums Company Limited (ပုဂ္ဂလိကကုမ္ပဏီ...)
နတ်မောက်လမ်း၊ ကန်တော်ကြီးရေချိုးငါးပြတိုက်အတွင်း
ဗဟန်းမြို့နယ်

အကြောင်းအရာ ။ ရန်ကုန်မြို့၊ ဗဟန်း မြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် နတ်မောက် ......... မြေကွက်အမှတ် ........ ၊ အိမ်အမှတ် ...... / .............. လမ်းတွင် (၁ထပ် Steel နှင့် ၂ထပ် + Open Shed) ထပ်အဆောက်အအုံတစ်လုံးဆောက်လုပ်ခွင့်ပြုခြင်း

ရည်ညွှန်းချက် ။ အဆောက်အအုံပုံစံများနှင့်အတူ ပူးတွဲတင်သွင်းသော .......... ရက်စွဲပါ လျှောက်လွှာ

၁။ ၄င်းလျှောက်လွှာနှင့် တင်သွင်းသော အဆိုပါ ....*..... ထပ် ............. အိမ်ကို မိမိပိုင်/မြေနယ်နိမိတ်အတွင်း၌သာ အောက်ပါညွှန်ကြားချက်များအတိုင်း သတိပြုလိုက်နာစေလျက် ဆောက်လုပ်ရန် ခွင့်ပြုပါသည်။

(က) အဆောက်အအုံဆောက်လုပ်သည့်အခါ နောက်ဖေးလမ်းကြားတွင် မြေများ စုပုံခြင်းမပြုရ။
(ခ) အဆောက်အအုံ ဆောက်လုပ်နေစဉ်အတွင်း သက်ဆိုင်ရာပစ္စည်းဟူသမျှကို လမ်းပုခုံးနှင့် လူသွားစင်္ကြံပေါ်တွင် စုပုံထားခြင်းမပြုရ။
(ဂ) အဆောက်အအုံ ဆောက်လုပ်ပြီးစီးလျှင် ပြီးစီးကြောင်း လက်မှတ်ထုတ်ပေးရန် လျှောက်ထားရမည်။
(ဃ) ဤခွင့်ပြုလိုက်သောပုံစံကို အဆောက်အအုံ ဆောက်လုပ်သောနေရာရှိ တာဝန်ခံတစ်ဦးဦးထံတွင် အမြဲရှိနေစေရမည်။
(င) ဤခွင့်ပြုချက်သည် Aquariums, Food & Beverages အတွက်သာ ခွင့်ပြုခြင်းဖြစ်ပါသည်။
(စ) ဤခွင့်ပြုချက်သည် ခွင့်ပြုသည့်နေ့မှစ၍ တစ်နှစ်အတွက်သာဖြစ်သည်။ ခွင့်ပြုမိန့်သက်တမ်းအတွင်း ဆောက်လုပ်ပြီးစီးနိုင်ခြင်း မရှိပါက သက်တမ်းမကုန်ဆုံးမီ (၁၅) ရက်ကြိုတင်၍ သက်တမ်းတိုးခွင့်အား လျှောက်ထားရမည်ဖြစ်ပြီး သက်တမ်းတိုးခွင့် လျှောက်ထားခြင်းမရှိသော ခွင့်ပြုမိန့်အား သက်တမ်းကုန်ဆုံးသည့်နေ့တွင် အလိုအလျောက် ရပ်ဆိုင်းပြီး ဖြစ်သည်ဟု မှတ်ယူရမည်။
(ဆ) အမှိုက်စွန့်ပစ်မှုစနစ်နှင့်ပတ်သက်၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းရေးဌာန၏ ညွှန်ကြားချက်အတိုင်း လိုက်နာဆောင်ရွက်ရမည်။
(ဇ) ရေနှင့် သန့်ရှင်းမှုဆိုင်ရာကိစ္စရပ်များအား အင်ဂျင်နီယာဌာန (ရေနှင့်သန့်ရှင်းမှု)၏ ညွှန်ကြားချက်အတိုင်း လိုက်နာဆောင်ရွက်ရမည်။
(ဈ) ရေမြောင်းနှင့်ပတ်သက်၍ အင်ဂျင်နီယာဌာန (လမ်းနှင့်တံတား) ညွှန်ကြားချက်အတိုင်း လိုက်နာဆောင်ရွက်ရမည်။

၂။ ဤဌာန၏ ခွင့်ပြုပြီးပုံစံနှင့် ဤစာပါ ညွှန်ကြားချက်များအတိုင်း အတိအကျ လိုက်နာဆောင်ရွက်ရန်ဖြစ်ပြီး လိုက်နာဆောင်ရွက်ခြင်းမရှိပါက ဌာန၏ လုပ်ထုံးလုပ်နည်းများနှင့်အညီ အရေးယူခြင်းခံရလိမ့်မည်။

၃။ ပူးတွဲပါများ
(က) အတည်ပြုပုံစံ ( ၃၃ ) ချပ်
(ခ) ပစ္စည်းစာရင်း ( - ) စုံ
(ဂ) အဆောက်အအုံလုပ်ငန်းစစ်ဆေးချက်မှတ်တမ်းစာအုပ် ( ၂ ) အုပ်
(ဃ) သတိပြုလိုက်နာရန်အချက် ( ၂ ) ချက်

* ၁ထပ် Steel Aquariums
၂ထပ် + Open Shed (Food & Beverages)

(signature) ၁၄/၁၁
ဌာနမှူး

မိတ္တူကို
ဒုတိယဌာနမှူး (စစ်ဆေးရေးဌာနခွဲ)
အုပ်ချုပ်ရေးမှူး ( ဗဟန်း ) မြို့နယ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်တိုင်းဒေသကြီးအစိုးရ
ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ
အင်ဂျင်နီယာဌာန (အဆောက်အအုံ)

စာအမှတ် ၊ ၃၈၆၆ / ၁၅၆ /စည်-ယာ /အုံ (ပုံစံ)
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် နိုဝင်ဘာ လ ၁၃ ရက်

သို့

Myanmar Aquariums company Limited(ငွားရမ်းလုပ်ကိုင်ခွင့်ရရှိသူ)
နတ်မောက်လမ်း၊ ကန်တော်ကြီးရေချိုငါးဥယျာဉ်ပြတိုက်အတွင်း၊
ဗဟန်းမြို့နယ်

အကြောင်းအရာ။ ရန်ကုန်မြို့၊ ဗဟန်း မြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် ....၊ မြေကွက်အမှတ် .... ၊ နတ်မောက် လမ်း၊ အိမ်အမှတ် .... တွင် (၃ )ထပ် Steel Aquariums အဆောက်အအုံ (၂)ထပ်+Open Shed (Food & Beverages) ဆောက်လုပ်ခွင့်ပြုချက်ကို ( ၁ )ကြိမ်မြောက် ထပ်မံအချိန်တိုးမြှင့်ပေးရန်ကိစ္စ

လူကြီးမင်း၏ ( ၂၃ - ၁၀ - ၂၀၁၅ ) ရက်စွဲပါ လျှောက်ထားချက်အရ ဆောက်လုပ်လျက်ရှိသော အောက်ပါ လုပ်ငန်းများကို ဆက်လက်ဆောက်လုပ်နိုင်ရန် ယခုအမိန့် ထုတ်ပြန်သည့်နေ့မှစ၍ ( ၁၄ - ၁၁ -၂၀၁၄ ) ရက်စွဲပါ စာအမှတ် ၊၃၈၆၆ / ၃၇၉၆ / စည်ပင်- ယာ/ အုံ(ပုံစံ)ဖြင့် ဤဌာနမှ ခွင့်ပြုထားသည်ကို ( ၁၄ -၁၁ -၂၀၁၆) ရက်နေ့အထိ ( ၁ ) ကြိမ်မြောက် အချိန်တိုးမြှင့် ဆောက်လုပ် ခွင့်ပြုလိုက်သည်။

မှတ်ချက်။

(၁) Block(A)(၂)ထပ်Open Shed(Food 2 Beverages)အဆောက်အအုံတွင် Pile Cap အားလုံးကွန်ကရစ်လောင်း
(၂) ပြီး၍ Block (B)(၃)ထပ် Steel Aquarium အဆောက်အအုံတွင် Pile Cap အလုံး(၄၀)ဆောင်ရွက်ပြီးဖြစ်ပါသည်။

ဌာနမှူး

မိတ္တူကို

ကော်မတီဝင်(၃)၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ
အုပ်ချုပ်ရေးမှူး ၊ မြို့နယ်စည်ပင်သာယာအုပ်ချုပ်ရေးမှူးရုံး၊ ဗဟန်း မြို့နယ်
ရုံးလက်ခံ

၂၀၀၈ ခုနှစ် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေပုဒ်မ ၃၈၉ အရ နိုင်ငံသားတိုင်းသည် ဥပဒေအရ ပေးဆောင်ရမည့် အခွန်အကောက်များကို ပေးဆောင်ရန်တာဝန်ရှိသည်

CDN- 8743
26.2.2015

ပုံစံ (၀င) - ၈

# ဝင်ငွေခွန် ဥပဒေပုဒ်မ ၅၃ အရ အခွန်တောင်းခံလွှာ

သို့ အခွန်ထမ်းမှတ်ပုံတင်စာရင်းအမှတ် ..21128/ MCa……

Myanmar Aquarium Co, Ltd

ဗိုလ်ချုပ်ပန်းခြံဝင်း ၊ နတ်မောက်လမ်း ၊ဗိုလ်ချို(၁)ရပ်ကွက်၊ ဗဟန်းမြို့နယ်

၁။ ၂၀၁၄ - ၂၀၁၅ ,' စည်းကြပ်နှစ်အတွက် လူကြီးမင်းသည် ကျောဘက်ပါပုံစံတွင် အသေးစိတ် ဖော်ပြထားချက်အရ အောက်ပါငွေကို ပေးဆောင်ရန် အကြောင်းကြားပါသည်။

| | | ကျပ် | ပြား |
|---|---|---|---|
| (က) ဝင်ငွေခွန် | …. | | - |
| (ခ) ပုဒ်မ ၁၆ (ဓ) အရ ဒဏ်ငွေ | …. | | |
| (ဂ) ပုဒ်မ ၄၀(က) အရ ဒဏ်ငွေ | …. | *NA* | |
| (ဃ) ပုဒ်မ ၆၄(က) အရ ဒဏ်ငွေ | …. | | |
| (င) ပုဒ်မ ၄၇(ခ) အရ ဒဏ်ငွေ | …. | | |
| (စ) ပုဒ်မ ၄၇(ဂ) အရ ဒဏ်ငွေ | …. | | |
| စုစုပေါင်း | | *NA* | - |

၂။ အထက်ဖော်ပြပါ ငွေစုစုပေါင်းကို ရန်ကုန် မြို့ရှိ သက်ဆိုင်ရာဘဏ် (၁) တွင် ……………………နေ့၌ဖြစ်စေ၊ ထိုနေ့မတိုင်မီဖြစ်စေ ပူးတွဲပါ ငွေသွင်းပြေစာပုံစံဖြင့် ပေးသွင်းပြီး ငွေလက်ခံဖြတ်ပိုင်းကို ရယူစေလိုပါသည်။

၃။ အထက်အပိုဒ် (၁)တွင်ဖော်ပြထားသည့် အခွန်နှင့်ဒဏ်ငွေစုစုပေါင်းကို ပေးဆောင်ရန်ပျက်ကွက်ပါက ပုဒ်မ (၄၀) အရ၊ ထိုတောင်းခံငွေစုစုပေါင်းနှင့် ညီမျှသည်အထိ ဒဏ်ငွေတပ်ရိုက်ခြင်းနှင့် တရားစွဲဆိုအရကောက်ခံခြင်း ခံရဖွယ်ရှိပါ၍ မပျက်မကွက် ပေးဆောင်စေလိုပါသည်။+

၄။ စည်းကြပ်မှုကို ပုဒ်မ ၁၉(ဃ) အရ ပြုလုပ်ထားသည်မှာ လူကြီးမင်းသည်-

ပုဒ်မ ၁၇ အရဝင်ငွေကြေငြာလွှာတင်သွင်းရန်
____________________ ပျက်ကွက်ခဲ့ခြင်းကြောင့်ဖြစ်ပါသည်။
ပုဒ်မ ၁၉ (ခ) အရ ဝင်ငွေကြေငြာလွှာတင်သွင်းရန်

၅။ စည်းကြပ်မှုသို့မဟုတ် ဒဏ်ငွေတပ်ရိုက်မှုကို အယူခံလိုပါက ဤအကြောင်းကြားစာရရှိပြီး ကပ်လျက်ဖြစ်သော နောက်နေ့မှ ရက်ပေါင်း (၃၀) အတွင်း ဝင်ငွေခွန် ဥပဒေပုဒ်မ ၃၂(က) အရ …………………………မြို့ ရှိ …………………… တိုင်းဒေသကြီး/ ပြည်နယ် အခွန်ဦးစီးဌာနမှူးရုံး သို့မဟုတ် ကုမ္ပဏီများဆိုင်ရာအခွန်ရုံးသို့ ပြဋ္ဌာန်းထားသော အယူခံပုံစံဖြင့်စည်းကမ်းနည်းလမ်းများအတိုင်း ဆောင်ရွက်ပြီး အယူခံလွှာကို တင်သွင်းရန်ဖြစ်ပါသည်။ ထို့အပြင် အယူခံမဝင်မီ အခွန်ငွေကို ပေးဆောင်ပြီး ဖြစ်ရပါမည်။ သို့မဟုတ် ………………… မြို့နယ်အခွန်ဦးစီးဌာနမှူးထံ ဆိုင်ရာပြဋ္ဌာန်းချက်အရ လျှောက်ထား၍ ယင်း၏ ဆုံးဖြတ်ချက်အတိုင်း ဆောင်ရွက်ထားပြီးဖြစ်ရပါမည်။

ရုံးတံဆိပ်

နေ့စွဲ၊ 26.2.2015

မြို့နယ်အခွန်ဦးစီးဌာနမှူး

____________ မြို့နယ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ 102276

အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ......၃၅၉၄...... / ၂၀၁၃ - ၂၀၁၄

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ...မြန်မာ အကွာရီယမ်(မ်စ်) ကုမ္ပဏီ လီမိတက်

.................................. အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက်

ကုမ္ပဏီအဖြစ် ၂၀၁၃ နှစ် အောက်တိုဘာလ ၂၄ ရက်နေ့တွင် မှတ်ပုံတင်ခွင့်ပြုလိုက်သည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(နန်းရီရီသန်း ၊ ညွှန်ကြားရေးမှူး)
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

---

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

NO. ......3594...... of 2013 - 2014

I hereby certify that ......MYANMAR AQUARIUMS COMPANY LIMITED...... is this day incorporated under the Myanmar Companies Act and that the company is Limited.

Given under my hand at Nay Pyi Taw this ......TWENTY - FOURTH...... day of ......OCTOBER, TWO THOUSAND AND THIRTEEN......

**For Director General**
**(Nang Yi Yi Than, Director)**
Directorate of Investment and Company Administration

Aqu- 110501

**Kamayut Branch**
615/1 ,5 1/2 Miles,Pya, Road,Kamayut Township,Yangon
Ph : 538072,538073,538074
Fax : 538067,538068,503008

Date : 02 October , 2014

KANBAWZA BANK LTD
KMY
Branch

ACCOUNT NO. : 0211130098806

NAME : MYANMAR AQUARIUMS CO.,LTD
NRC :
ADDRESS : BOJGYOKE PARK COMPOUND,NAT MAUK ST,BO CHO 1 QTR
BAHAN
PHONE : 555613

## Statement Of Transaction For The Date Between 01/09/2014 And 30/09/2014

| Da' Time | Description | Withdrawal Amount | Deposit Amount | Balance |
|---|---|---|---|---|
| /( 2014 | Opening Balance | | | 337,558,302.00 |
| / 09 / 2014 | Online Transfer Debit , 01605880 | 5,340,000.00 | | 332,218,302.00 |
| / 09 / 2014 | Online Withdrawal DAW YU YU WIN,0211130008806 , 0 | 42,425,372.00 | | 289,792,930.00 |
| / 09 / 2014 | Online Withdrawal DAW KHIN MYOH NAING,W/D , 01( | 627,900.00 | | 289,165,030.00 |
| / 09 / 2014 | Closing Balance | | | 289,165,030.00 |

**No. of Withdrawals : 3**
**No. of Deposits : 0**

**Thank You For Banking With Kamayut Branch**

**Please report any descrepencies found on your statement immediately.**
**N.B - Statement will not be sent unless there is a change of transaction.**

**For Kamayut Branch**

**Asst: / DY Manager**

Manager
Kanbawza Bank Ltd.
Kamayut Branch

SPECIMEN SIGNATURE(S)

| | |
|---|---|
| တစ်ပတ်လျှင်(၁)ကြိမ်လာထုတ်ခွင့်ရှိသည်၊<br>ငွေထုတ်လျှင်မှတ်ပုံတင်ယူဆောင်လာပါရန်၊ | Manager |
| **KANBAWZA BANK LIMITED.**<br>**KAMAYUT BRANCH**<br>**Ph: No- 538072/538073/538074** | Manager |

Type of Account: **Company / Organization**

Signature Requirements: **2 Persons will sign.**

Special Instructions:

Account No. **0211230003785 (Kanbawza Bank.,Ltd.Kamayut Branc**

Name of Account: **MYANMAR AQUARIUMS CO.,LTD**

**021-304-02105391601**

| Name(s) of Account Holder(s) | NRC /CRC No(s) |
|---|---|
| DAW SHOUT SI | 9/MAYATA(N)107215 |
| 1. DAW YU YU WIN | 12/LATHANA(N)015276 |
| 2. | |
| 3. | |

071973

**KBZ BANK**
ကမ္ဘောဇဘဏ်လီမိတက်

The use of this passbook is governed by the Bank's Terms and Conditions for Saving Accounts as amended from time to time.

| Date ရက်စွဲ | Code သင်္ကေတ | Deposit သွင်းငွေ | Withdrawal ထုတ်ငွေ | Balance လက်ကျန် | Official ငွေကိုင်လက်မှတ် |
|---|---|---|---|---|---|
| 09-09-2015 | TRD | 80,000,000.00 | 0.00 | 80,042,801.35 | |
| 10-09-2015 | TRD | 120,000,000.00 | 0.00 | 200,042,801.35 | |
| 11-09-2015 | TRW | 0.00 | 10,000,000.00 | 190,042,801.35 | |
| 22-SEP-15 | SWO | 0.00 | 768,700.00 | 189,274,101.35 | |
| 01-OCT-15 | ICC | 294.26 | 0.00 | 189,274,395.61 | |
| 01-OCT-15 | ICC | 588.52 | 0.00 | 189,274,984.13 | |
| 09-OCT-15 | SWO | 0.00 | 126,000,000.00 | 63,274,984.13 | |
| 23-OCT-15 | SWO | 0.00 | 979,900.00 | 62,295,084.13 | |
| 05-NOV-15 | SWO | 0.00 | 10,000,000.00 | 52,295,084.13 | |
| 25-NOV-15 | SWO | 0.00 | 1,147,900.00 | 51,147,184.13 | |
| 10-DEC-15 | SWO | 0.00 | 30,000,000.00 | 21,147,184.13 | |
| 16-DEC-15 | SWO | 0.00 | 20,000,000.00 | 1,147,184.13 | |
| 23-DEC-15 | AAT | 40,000,000.00 | 0.00 | 41,147,184.13 | |
| 23-DEC-15 | SWO | 0.00 | 997,500.00 | 40,149,684.13 | |
| 24-DEC-15 | CRM | 60,000,000.00 | 0.00 | 100,149,684.13 | |

ဘဏ်မှမထွက်ခွာမီစာရင်းရေးသွင်းချက်များကိုစစ်ဆေးပါ။

| Date ရက်စွဲ | Code သင်္ကေတ | Deposit သွင်းငွေ | Withdrawal ထုတ်ငွေ | Balance လက်ကျန် | Official ငွေကြေးအရာရှိ |
|---|---|---|---|---|---|
| 1 28-DEC-15 | SWO | 0.00 | 61,024,314.00 | 39,125,370.13 | |
| 2 31-DEC-15 | AAT | 40,000,000.00 | 0.00 | 79,125,370.13 | |
| 3 01-JAN-16 | ICC | 787,802.49 | 0.00 | 79,913,172.62 | |
| 4 | | | | | |
| 5 01-JAN-16 | SWO | 0.00 | 64,033,125.00 | 15,880,047.62 | |
| 6 06-JAN-16 | CRM | 60,000,000.00 | 0.00 | 75,880,047.62 | |
| 7 15-JAN-16 | SWO | 0.00 | 10,000,050.00 | 65,879,997.62 | |
| 8 15-JAN-16 | SWO | 0.00 | 29,807,820.00 | 36,072,177.62 | |
| 9 | | | | | |
| 10 22-Feb-16 | SWO | 0.00 | 1,191,900.00 | 34,880,277.62 | |
| 11 25-Feb-16 | SWO | 0.00 | 15,000,000.00 | 19,880,277.62 | |
| 12 26-Feb-16 | CRM | 120,000,000.00 | 0.00 | 139,880,277.62 | |
| 13 29-Feb-16 | SWO | 0.00 | 50,515,064.00 | 89,365,213.62 | |
| 14 29-Feb-16 | SAL | 80,000,000.00 | 0.00 | 169,365,213.62 | |
| 15 | | | | | |
| 16 07-MAR-16 | SWO | 0.00 | 15,000,000.00 | 154,365,213.62 | |
| 17 16-MAR-16 | SWO | 0.00 | 37,500,000.00 | 116,865,213.62 | |
| 18 21-MAR-16 | SWO | 0.00 | 25,000,000.00 | 91,865,213.62 | |
| 19 25-MAR-16 | SWO | 0.00 | 1,125,900.00 | 90,739,313.62 | |
| 20 30-MAR-16 | SWO | 0.00 | 5,000,000.00 | [redacted] | |

ဘဏ်မှမထွက်ခွာမီစာရင်းရေးသွင်းချက်များကိုစစ်ဆေးပါ

| No. | Date ရက်စွဲ | Code သင်္ကေတ | Deposit သွင်းငွေ | Withdrawal ထုတ်ငွေ | Balance လက်ကျန် | Official ငွေကြေးအရာရှိ |
|---|---|---|---|---|---|---|
| 1 | 01-APR-16 | ICC | 835,310.02 | 0.00 | 86,574,623.64 | |
| 2 | 04-APR-16 | SWD | 0.00 | 37,500,000.00 | 49,074,623.64 | |
| 3 | | | | | | |
| 4 | | | | | | |
| 5 | | | | | | |
| 6 | | | | | | |
| 7 | | | | | | |
| 8 | | | | | | |
| 9 | | | | | | |
| 10 | | | | | | |
| 11 | | | | | | |
| 12 | | | | | | |
| 13 | | | | | | |
| 14 | | | | | | |
| 15 | | | | | | |
| 16 | | | | | | |
| 17 | | | | | | |
| 18 | | | | | | |
| 19 | | | | | | |
| 20 | | | | | | |

ဘဏ်မှမထွက်ခွာမီစာရင်းရေးသွင်းချက်များကိုစစ်ဆေးပါ။

KANBAWZA BANK
KAMAYUT BRANCH
NO.615/1, PYAY ROAD
KAMAYUT Tsp,Yangon
Ph: (01)538072-73

110301

Date : 04 April, 2016

ACCOUNT NO. : 02110302105320101 (MMK)
NAME : MYANMAR AQUARIUMS CO.,LTD
NRC : , 12/LATHANA(N)015276, 9/MAYATA(N)107215,
ADDRESS : BOJGYOKE PARK COMPOUND,NAT MAUK ST,BO CHO 1 QTR , BAHAN, YANGON,YANGON DIVISON

PHONE :

KANBAWZA BANK LTD. KMY Branch

## Statement Of Transaction For The Date Between 01/03/2016 and 31/03/2016

| Date_Time | Description | Debit | Credit | Balance |
|---|---|---|---|---|
| 01/03/2016 | Opening Balance - - - - - - | | | 1,000.00 |
| 07/03/2016 | By Transfer - ONLINE SWEEP IN 02110302105320101 - u arty [ spt-1] - - - - - - | | 15,000,000.00 | 15,001,000.00 |
| 07/03/2016 | To Transfer - CHEQUE TRANSFER 130501180 - 01754929 u arty [ spt-1] - - - - - - | 15,000,000.00 | | 1,000.00 |
| 16/03/2016 | By Transfer - ONLINE SWEEP IN - TPS-THIN THIN NWE - - - - - - | | 37,500,000.00 | 37,501,000.00 |
| 16/03/2016 | To Cash - Cheque Withdrawal by Cash 01754930 TPS-THIN THIN NWE - - - - - - | 37,500,000.00 | | 1,000.00 |
| 21/03/2016 | By Transfer - ONLINE SWEEP IN 02110302105320101 - - - - - - - - | | 25,000,000.00 | 25,001,000.00 |
| 21/03/2016 | To Transfer - CHEQUE TRANSFER 130501102 - 01754932 - - - - - - - | 25,000,000.00 | | 1,000.00 |
| 25/03/2016 | By Transfer - ONLINE SWEEP IN - KHIN MYOT NAING-SGD - - - - - - | | 1,125,900.00 | 1,126,900.00 |
| 25/03/2016 | To Cash - Cheque Withdrawal by Cash 01754931 KHIN MYOT NAING-SGD - - - - - - | 1,125,900.00 | | 1,000.00 |
| 30/03/2016 | By Transfer - ONLINE SWEEP IN - DAW NILAR AYE - - - - - - | | 5,000,000.00 | 5,001,000.00 |
| 30/03/2016 | To Transfer - CHEQUE TRANSFER 04260200700033801 - 01754933 DAW NILAR AYE - - - - - - | 5,000,000.00 | | 1,000.00 |
| 31/03/2016 | Closing Balance | | | 1,000.00 |
| No. of Debit : 5 | Debit Total | 83,625,900.00 | | |
| No. of Credit : 5 | Credit Total | | 83,625,900.00 | |

Thank You For Banking With KAMAYUT BRANCH

Please report any discrepancies found on your statement immediately.
N.B – Statement will not be sent unless there is a change of transaction.

Asst/DY Manager
Manager
Kanbawza Bank Ltd
Kamayut Branch